မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ဟိုင်းဝင်း အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Memorandum Of Association

*AND*

Articles Of Association

*OF*

# HIGH WIN INTERNATIONAL COMPANY LIMITED

ခြွင်းချက်။ ။ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားအရပ်ဒေသ တစ်ခုခု၌ဖြစ်စေ အချိန် အခါအားလျော်စွာ တည်မြဲနေသည့် ဥပဒေများက ခွင့်ပြုထားသော လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပါ။ ထို့ပြင် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ အချိန်အခါ အားလျော်စွာ တည်မြဲနေသည့် ဥပဒေ ပြဋ္ဌာန်းချက်များ၏ခွင့်ပြုချက်နှင့် သဘောတူညီချက် ရရှိထားသော လုပ်ငန်းများကိုသာ ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

၄။ အစုဝင် အသင်းသားများ၏ ပေးရန် တာဝန်ကို ကန့်သတ်ထားပါသည်။

၅။ ကုမ္ပဏီ၏ မတည်ရင်းနှီးငွေမှာ ကျပ် ၆၀၀၀၀၀၀၀၀/- (ကျပ်သန်းခြောက်ရာတိတိ)ဖြစ်၍ ကျပ် ၁၀၀၀/- (ကျပ် တစ်ထောင် တိတိ) တန် အစုရှယ်ယာပေါင်း ၆၀၀၀၀၀ (ခြောက်သိန်း) ခွဲထားသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိ တရားဝင် တည်ဆဲ ဥပဒေ ပြဋ္ဌာန်းချက် များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိသည်။

※※※

အောက်တွင် အမည်၊ လူမျိုး၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသော ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခု ဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ယူရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | လူမျိုး နှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ယူသော အစုရှယ်ယာ ဦးရေ | အသိသက်သေ လက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးလှဝင်း၊<br>အမှတ် ၄၂၊ ၂၅ ... ၊ ၈၀ လမ်းနှင့် ၈၂ လမ်းကြား၊ ပြည်ကြီးကျက်သရေအရှေ့ ရပ်ကွက်၊ အကွက် အမှတ် ၁၇၄၊ အရှေ့မြောက်မြို့နယ်၊ မန္တလေးတိုင်း။ (ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)-<br>၀၅၇၀၆၅ | ၁၀၁ | |
| ၂။ | ဦးကျွန်းအေး၊<br>အမှတ် ၂၄၊ အောင်သဒြေလမ်း၊ (၇) ရပ်ကွက်၊ လားရှိုးမြို့နယ်၊ ရှမ်းပြည်မြောက်ပိုင်း။ (ကုန်သည်) | မြန်မာ<br>အိုင်အိပ်ချ်ပီဂျီ-<br>၀၅၃၀၂၄ | ၁၀၁ | |
| ၃။ | ဒေါ်လှခင်၊<br>အမှတ် ၄၂၊ ၂၅ လမ်း၊ ၈၀ လမ်းနှင့် ၈၂ လမ်းကြား၊ ပြည်ကြီးကျက်သရေအရှေ့ ရပ်ကွက်၊ အကွက် အမှတ် (၁၇၄)၊ အရှေ့မြောက်မြို့နယ်၊ မန္တလေးတိုင်း။ (ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)-<br>၀၅၀၂၂၃ | ၁၀၀ | |
| ၄။ | ဦးခင်မောင်ဝင်း၊<br>အမှတ် ၅၀၊ ဗိုလ်ချုပ်လမ်း၊ ၂ ရပ်ကွက်၊ လားရှိုးမြို့နယ်၊ ရှမ်းပြည်မြောက်ပိုင်း။ (ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)-<br>၀၇၀၅၂၀ | ၁၀၀ | |
| ၅။ | ဦးလှသန်း၊<br>အမှတ် ၂၄၊ အောင်သပြေလမ်း၊ ၇ ရပ်ကွက်၊ လားရှိုးမြို့နယ် ရှမ်းပြည်မြောက်ပိုင်း။ (ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)-<br>၀၅၆၀၂၃ | ၁၀၀ | |

ရန်ကုန်၊ နေ့စွဲ၊ ၁၉ နှစ်၊ လ၊ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် ... လက်မှတ်ရေးထိုးကြပါသည်။

ဦးခင်းသင်း၊ (ဘီကွမ်း၊ ဘီအယ်လ်၊ အာရ်အေ)
စာရင်းစစ်
အမှတ် ၁၆၁၊ ကုန်ဈေးတန်းလမ်း၊ ရန်ကုန်မြို့၊

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဟိုင်းဝင်း အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

ပဏာမ

၁။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ၏ ပထမဇယားပုံစံ (က)တွင် ပါရှိသည့် စည်းမျဉ်းဥပဒေများသည် ဤကုမ္ပဏီအား အကျုံးဝင်စေရမည်။ သို့သော် အဆိုပါ စည်းမျဉ်းဥပဒေများကို ပယ်ထုတ်ခြင်း၊ သို့တည်းမဟုတ် ပြောင်းလဲခြင်း ပြုထားသည်မှအပ၊ သို့တည်းမဟုတ် ဤစည်းမျဉ်းများနှင့် လိုက်လျောညီထွေမရှိ၊ သို့တည်းမဟုတ် ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်သည်ဟူသော အချက်နှင့် မညီမညွတ် ဖြစ်သည်မှအပ ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။

### မလွှဲမသွေလိုက်နာရမည့် စည်းမျဉ်းများ

၂။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလွှဲမသွေ လိုက်နာရမည့် စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အမြဲတစေ သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

၃။ ဤကုမ္ပဏီသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၂(၁၃)၏ အဓိပ္ပာယ်အတွင်းမှာရှိသော ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီတစ်ခု ဖြစ်သည်။

### မ, တည်ငွေရင်းနှင့် အစုရှယ်ယာများ

၄။ ကုမ္ပဏီ၏ ခွင့်ပြု ရင်းနှီးငွေမှာ ကျပ် ၆၀၀၀၀၀၀၀၀ိ/- (ကျပ်သန်းခြောက်ရာတိတိ) ဖြစ်၍ ကျပ် ၁၀၀၀ိ/- (ကျပ် တစ်ထောင် တိတိ) တန် အစုရှယ်ယာပေါင်း ၆၀၀၀၀၀ (ခြောက်သိန်း) ခွဲထားသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိသည်။

### အစုရှယ်ယာများအပေါ် ဦးစားပေး အခွင့်အရေး

၅။ လက်ရှိ အစုရှယ်ယာဝင်များနှင့် ၎င်းတို့၏ မိသားစုများအား ဤကုမ္ပဏီ၏ ဒါရိုက်တာများက ဆုံးဖြတ်သော ဈေးနှုန်းဖြင့် အစုရှယ်ယာခွဲဝေခြင်း၊ လွှဲပြောင်းခြင်းများကို ဦးစားပေးရမည်။ ဤသို့ ဦးစားမပေးဘဲ အပြင်လူများကို အစုရှယ်ယာများ ခွဲဝေခြင်း၊ လွှဲပြောင်းခြင်း မပြုရ။

## ဒါရိုက်တာများ

၆။ အထွေထွေ အစည်းအဝေးကြီးတွင် အခြားနည်း ဆုံးဖြတ်ထားသည့်မှအပ ဒါရိုက်တာများ၏ ဦးရေသည် အနည်းဆုံး (နှစ်)ဦး ဖြစ်ပြီး၊ အများဆုံး (တစ်ဆယ့်တစ်)ဦး ဖြစ်ရမည်။

၇။ ပထမ ဒါရိုက်တာများမှာ—

(၁) ဦးလှခင်၊ (၄) ဦး[illegible]....နှင့်
(၂) ဦးထွန်းအေး၊ (၅) ဦးလှသန်း....တို့ ဖြစ်ကြပါသည်။
(၃) ဒေါ်လှခင်၊

၈။ ဒါရိုက်တာတစ်ဦး၏ အရည်အချင်းသည် မိမိကိုယ်ပိုင် အမည်ဖြင့် ကုမ္ပဏီတွင် အနည်းဆုံး အစုရှယ်ယာ (၁၀၀) (တစ်ရာ)ခု ပိုင်ဆိုင်ခြင်း ရှိစေရမည်ဖြစ်ပြီး မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၅ပါ [illegible]များကိုလည်း လိုက်နာရန် တာဝန်ရှိသည်။

၉။ ကုမ္ပဏီသည် သာမန်ထက် ထူးကဲသော ဆုံးဖြတ်ချက်ဖြင့် မည်သည့် ဒါရိုက်တာကိုမဆို ဖယ်ရှားနိုင်၍ ၎င်းအစား အခြား မည်သည့် ပုဂ္ဂိုလ်ကိုမဆို သာမန် ဆုံးဖြတ်ချက်ဖြင့် ခန့်အပ်နိုင်သည်။ ထိုသို့ မပြုလုပ်ပါလျှင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆(ဈ)အရ [illegible] ဒါရိုက်တာများအဖွဲ့သည် [illegible] ယူထားနိုင်သည်။

၁၀။ (၁) ဒါရိုက်တာများထဲမှ ရှောင်တခင် နေရာလစ်လပ်ခဲ့သော ဒါရိုက်တာသစ်များကို အစားထိုးခန့်ထားခြင်း မပြုဘဲ ထားနိုင်သည်။ နောက်သာမန် အစည်းအဝေးက သာမန် ဆုံးဖြတ်ချက်ဖြင့် ဒါရိုက်တာသစ်များ ခန့်ထားရမည်။

(၂) မည်သည့် ဒါရိုက်တာမဆို ဤကုမ္ပဏီ၏ လုပ်ငန်းများကို [illegible] ဒါရိုက်တာများ [illegible] ၎င်း၏နေရာတွင် ခွင့်ယူသွားသော ဒါရိုက်တာက လွှဲအပ်သည့် မည်သူ့ကိုမဆို အစားထိုး ခန့်ထားနိုင်သည်။ ထိုသို့ အစားထိုးခန့်ထားခြင်း ခံရသူတိုင်းသည် ထိုဒါရိုက်တာ [illegible] ဒါရိုက်တာများ အစည်းအဝေးသို့ တက်ရောက်နိုင်ခွင့်နှင့် မဲပေးနိုင်ခွင့် ရှိစေရမည်။ ၎င်းသူသည် ခွင့်ယူသွားသော ဒါရိုက်တာ၏ [illegible]များ၊ အခွင့်အရေးများနှင့် တာဝန်ဝတ္တရားများ အားလုံးကို ဆက်ခံ ရရှိလုပ်ကိုင်စေရမည်။ [illegible] သွားသော ဒါရိုက်တာ ကွယ်လွန်လျှင် သို့မဟုတ် ဒါရိုက်တာ ရာထူးမှ ရပ်စဲခြင်း ခံရလျှင် [illegible] ၎င်းအား အစားထိုးခန့်ထားသည့်ပုဂ္ဂိုလ်၏ ခန့်ထားခြင်းသည်လည်း ရပ်စဲသွားစေရမည်။ [illegible] တစ်ဦးအား အစားထိုး ဆောင်ရွက်နေသော ပုဂ္ဂိုလ်တိုင်းသည် ကုမ္ပဏီ၏ အကျိုး[illegible] ကုမ္ပဏီအား ၎င်း၏ ဆောင်ရွက်မှုများနှင့် ပျက်ကွက်မှုများအတွက် [illegible] ရမည်ဖြစ်ပြီး ခွင့်ယူသွားသော ဒါရိုက်တာ၏ ကိုယ်စားလှယ်ဟု ၎င်းအား [illegible]။

၁၁။ ဒါရိုက်တာများသည် မိမိတို့၏ ခံစားခွင့်များကို အထွေထွေ အစည်းအဝေးကြီး [illegible] မိမိတို့ကိုယ်တိုင် ဆုံးဖြတ်နိုင်သည်။

၁၂။ (၁) ဒါရိုက်တာများသည် ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်း တိုးတက်ဖွံ့ဖြိုးစေရန် အတွက် မည်သည့် [illegible] သို့မဟုတ် ပုဂ္ဂိုလ်များ၊ စီးပွားရေးလုပ်ငန်းများ ကုမ္ပဏီများ၊ ဘဏ်များ သို့မဟုတ် ငွေကြေးအဖွဲ့အစည်းများထံမှ မဆို ကုမ္ပဏီအတွက် သို့မဟုတ် ကုမ္ပဏီကိုယ်စား ငွေချေးယူနိုင်ပြီး ယင်းချေးငွေများကို ပြန်လည် ပေးဆပ်ရန်အာမခံအတွက် သင့်လျော်လျောက်ပတ်သည်ဟု ထင်မြင်ယူဆသည့် နည်းလမ်းများနှင့် သော်လည်းကောင်း၊ စည်းကမ်းသတ်မှတ်ချက်များနှင့် သော်လည်းကောင်း အဟက်ဘက်မှ ဆောင်ရွက်နိုင်သည်။

(၂) ဒါရိုက်တာတို့သည် အုပ်ချုပ်မှု ဒါရိုက်တာ သို့မဟုတ် အထွေထွေ မန်နေဂျာ သို့မဟုတ် အုပ်ချုပ်မှု ကိုယ်စားလှယ် သို့မဟုတ် ၎င်းတို့မှ သင့်လျော်သည်ထင်သည့် ၎င်းတို့အဖွဲ့မှ အဖွဲ့ဝင် သို့မဟုတ် အဖွဲ့ဝင်များ ပါဝင်သည့် ကော်မတီသို့ ၎င်းတို့၏ မည်သည့် အာဏာကိုမဆို လွှဲအပ်နိုင်သည်။ အုပ်ချုပ်မှု ဒါရိုက်တာ သို့မဟုတ် အထွေထွေ မန်နေဂျာ သို့မဟုတ် အုပ်ချုပ်မှု ကိုယ်စားလှယ်များ သို့မဟုတ် ထိုသို့ ဖွဲ့စည်းထားသည့် မည်သည့် ကော်မတီကိုမဆို ဒါရိုက်တာတို့က အချိန်အားလျော်စွာ ချမှတ်သည့် စည်းကမ်းချက် သတ်မှတ်ချက်များနှင့်အညီ ၎င်းတို့အား လွှဲအပ်သည့် အာဏာများကို အသုံးပြုရန် လိုက်နာ၍လုပ်ရမည်။

အောက်တွင် အမည်၊ လူမျိုး၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမှုဥပဒေအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်၊

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | လူမျိုး နှင့် တိုင်းရင်းသား မှတ်ပုံတင်အမှတ် | ယူသည့်အစု ရှယ်ယာ ဦးရေ | အမြဲ လက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးလှဝင်း၊<br>အမှတ် ၄၂၊ ၂၅ လမ်း၊ ၈၁ လမ်းနှင့် ၈၂ လမ်းကြား၊ ပြည်ကြီးကျက်သရေအရှေ့ ရပ်ကွက်၊ အကွက် အမှတ် ၁၃၄၊ အရှေ့မြောက်မြို့နယ်၊ မန္တလေးတိုင်း။ (ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)-၀၅၃၈၆၅ | ၁၀၀ | |
| ၂။ | ဦးထွန်းအေး၊<br>အမှတ် ၂၄၊ အောင်သပြေလမ်း၊ (၃) ရပ်ကွက်၊ လားရှိုးမြို့နယ်၊ ရှမ်းပြည်မြောက်ပိုင်း၊ (ကုန်သည်) | မြန်မာ<br>အိုင်အိပ်ချ်ပီဂျီ-၀၅၃၀၂၄ | ၁၀၀ | |
| ၃။ | ဒေါ်လှခင်၊<br>အမှတ် ၄၂၊ ၂၅ လမ်း၊ ၈၁ လမ်းနှင့် ၈၂ လမ်းကြား၊ ပြည်ကြီးကျက်သရေအရှေ့ ရပ်ကွက်၊ အကွက် အမှတ် (၁၃၄)၊ အရှေ့မြောက်မြို့နယ်၊ မန္တလေးတိုင်း။ (ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)-၀၅၀၂၂၃ | ၁၀၀ | Hla |
| ၄။ | ဦးခင်မောင်ဝင်း၊<br>အမှတ် ၅၀၊ ဗိုလ်ချုပ်လမ်း၊ ၂ ရပ်ကွက်၊ လားရှိုးမြို့နယ်၊ ရှမ်းပြည်မြောက်ပိုင်း။ (ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)-၀၃၀၅၂၀ | ၁၀၀ | |
| ၅။ | ဦးလှသန်း၊<br>အမှတ် ၂၄၊ အောင်သပြေလမ်း၊ ၃ ရပ်ကွက်၊ လားရှိုးမြို့နယ် ရှမ်းပြည်မြောက်ပိုင်း၊ (ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)-၀၅၆၀၂၃ | ၁၀၀ | |

ရန်ကုန်၊ နေ့စွဲ၊ ၁၉ နှစ်၊ လ၊ ရက်၊

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် မှန်ကန်ပုံ လက်မှတ်ရေးထိုးကြပါသည်။

ဦးခင်သင်း၊ (ဘီကွမ်း၊ ဘီအယ်လ်၊ အာဒီအေ)
စာရင်းစစ်
အမှတ် ၁၆၁၊ ကုန်စည်တန်းလမ်း၊ ရန်ကုန်မြို့၊

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# HIGH WIN INTERNATIONAL COMPANY LIMITED

I. The name of the Company is HIGH WIN INTERNATIONAL COMPANY LIMITED.

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are:-

(1) To carry on the following either solely on its own or in joint venture or co-partnership with any foreign or local enterprises:-

(*a*) business of importers, exporters, general traders, warehousemen, wholesalers and retailers, stockists, brokers, commission agents, freight forwarding and clearing agents, relating to all kinds of commodities;

(*b*) business of development, production, manufacturing, processing of all kinds of operations relating to industry, agriculture, forest (other than teak), fishery, livestock, construction and transportation (except airways and railways);

(*c*) business of services in advertising and publicity, printing and publishing, entertainment, technical and business consultants;

(*d*) businesses of other kinds which will be beneficial to this Company whether relating to any of the foregoing items or not.

(2) To borrow moneys for the development of the Company's business from any person, firm, or company or bank or financial orgnization, in the manners that the Company shall think fit.

(3) And generally to do all such other acts, matters and things as may be necessary, incidental or conducive to the attainment of the above objects or any of them.

*PROVISO:-* *Provided that this Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as they may be entitled so as to do in accordance with the laws in force from time to time and then only subject to such permission and or approval as may be prescribed by the laws of the Union of Myanmar for the time being in force.*

'. The liability of the members is limited.

The Authorised Capital of the Company is K. 600, 000, 000/- ( Kyats Six Hundred Million Only ) divided into 600, 000 ( Six Hundred Thousand ) shares of K. 1,000/- ( Kyats One Thousand Only ) each, with power in General Metting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this be half.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | No. of Shares Taken | Signatures |
|---|---|---|---|---|
| 1. | U Hla Win, No. 42, 25th Street, (Between 81st and 82nd Street), Pyi Gyi Kyet Tha Yae East Quarter, Block No. 174, North East Township, Mandalay, Mandalay Division. (Merchant) | Myanmar 13/LaYaNa (Naing)-057865 | 100 | |
| 2. | U Tin Aye, No. 24, Aung Thabye Street, 7 Ward, Lashio Township, Northern Shan State. (Merchant) | Myanmar IHPG-053824 | 100 | |
| 3. | Daw Hla Khin, No. 42, 25th Street, (Between 81st and 82nd Street), Pyi Gyi Kyet Tha Yae East Quarter, Block No. 174, North East Township, Mandalay, Mandalay Division. (Merchant) | Myanmar 13/LaYaNa (Naing)-058223 | 100 | Hla |
| 4. | U Khin Maung Win, No. 58, Bogyoke Street, 2nd Ward, Lashio Township, Northern Shan State. (Merchant) | Myanmar 13/LaYaNa (Naing)-078528 | 100 | |
| 5. | U Hla Than, No. 24, Aung Thabye Street, 7th Ward, Lashio Township, Northern Shan State. (Merchant) | Myanmar 13/LaYaNa (Naing)- 056827 | 100 | |

Yangon. Dated the day of 19 .

It is hereby certified that the persons mentioned above ~~at the time of registration~~ put their signatures in my presence at the time of registration.

Win Thin & Associates ★ Certified Public Accountants ★ AUDITORS

U WIN THIN ~~(B. Com.,~~ B. L., R. A.)
( *AUDITOR* )
No. 161, Konzedan Street, Yangon, Myanmar.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Articles Of Association

*OF*

# HIGH WIN INTERNATIONAL COMPANY LIMITED

## PRELIMINARY

1. The regulationa\s contained in Table (A) in the First Schedule to the Myanmar Companies Act shall apply to the Company, save as such regulations which are excluded or varied hereby or inconsistent with the following Articles or with the fact that the Company is a Private Company.

## COMPULSORY REGULATIONS

2. The Compulsory Regulations stipulated in Section 17( 2 ) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATED COMPANY

3. The Company is a Private Company within the meaning of Section 2( 13 ) of the Myanmar Companies Act.

## CAPITAL AND SHARES

4. The Authorised capital of the Company is K. 600.000,000/- ( Kyats Six Hundred Million Only ) divided into 600,000 ( Six Hundred Thousand ) shares of K. 1000/- ( Kyats One Thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

## PRE-EMPTIVE RIGHTS ON SHARES

5. No shares can be allotted or transferred to any outsiders without first being offered to the existing shareholders and their famillies at aprice to be determined by the Directors of the Company.

## DIRECTORS

6. Unless otherwise determined by the General Meeting the number of Directors shall not be less than two nor more than eleven.

7. The First Directors shall be:-

   (1) U Hla Win,
   (2) U Tun Aye,
   (3) Daw Hla Khin,
   (4) U Khin Maung Win....and
   (5) U Hla Than.

8. The qualification of a Director shall be the holding of not less than (100) (One Hundred) shares in the Company in his or her own name, and it shall be his or her duty to comply with the provisions of Section (85) of the Myanmar Companies Act.

9. The Company may by extraordinary resolution remove any Director and may by ordinary resolution appoint another person in his stead. Otherwise the Board of Directors may hold office from year to year until they are disqualified by the Section 86 (I) of the Myanmar Companies Act.

10. (1) Any casual vacancy occuring in the Board of Directors may not be filled up until the next Ordinary General Meeting when a new Director will be appointed by the ordinary resolution.

    (2) If any Director shall be unable to attend temporarily to the business of the Company for any reason, the Directors may, by resolution, appoint any person nominated by the said Director, to be his substitute and every such substitute shall during the absence of the said Director be entitled to attend and vote at a meeting of Directors and shall have and exercise all the powers, rights, duties and authorities of the absent Director. If the absent Director shall die or cease to hold the office of Director, the appointment of his substitute shall thereupon cease to have effect. Every person acting as a substitute for a Director shall be an officer of the Company, and shall also be responsible to the Company for his own acts and defaults and he shall not be deemed to be the agent for the absent Director.

11. The remuneration of the Directors shall from time to time be determined at their own discretion unless otherwise revised by the Company in General Meeting.

12. (1) The Directors may for the development of the Company's business borrow for and on behalf of the Company, any sum or sums of money from any person or persons, firms, companies, banks or financial organisations and may secure the repayment of such moneys in such manner and upon such terms and conditions in all respects as they think fit.

    (2) The Directors may delegate all or any of their powers to the Managing Director, General Manager, Managing Agents or to a committee consisting of such member or members of their body as they think fit. The Managing Directors, General Manager, Managing agents or any committee so formed shall in the exercise of the powers as delegated conform to the regulations that may from time to time be imposed upon him or them or it by the Directors.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of these Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | No. of Shares Taken | Signatures |
|---|---|---|---|---|
| 1. | U Hla Win, No. 42, 25th Street, (Between 81st and 82nd Street), Pyi Gyi Kyet Tha Yae East Quarter, Block No. 174, North East Township, Mandalay, Mandalay Division. (Merchant) | Myanmar 13/LaYaNa (Naing)-057865 | 100 | |
| 2. | U Tin Aye, No. 24, Aung Thabye Street, 7 Ward, Lashio Township, Northern Shan State. (Merchant) | Myanmar IHPG-053824 | 100 | |
| 3. | Daw Hla Khin, No. 42, 25th Street, (Between 81st and 82nd Street), Pyi Gyi Kyet Tha Yae East Quarter, Block No. 174, North East Township, Mandalay, Mandalay Division. (Merchant) | Myanmar 13/LaYaNa (Naing)-058223 | 100 | Hla |
| 4. | U Khin Maung Win, No. 58, Bogyoke Street, 2nd Ward, Lashio Township, Northern Shan State. (Merchant) | Myanmar 13/LaYaNa (Naing)-078528 | 100 | |
| 5. | U Hla Tnan, No. 24, Aung Thabye Street, 7th Ward, Lashio Township, Northern Shan State. (Merchant) | Myanmar 13/LaYaNa (Naing)- 056827 | 100 | |

Yangon. Dated the day of 19

It is hereby certified that the persons mentioned above ~~at the time of registration~~.
ut their signatures in my presence, at the time of registration

U WIN THIN (B. Com., B. L., R. A.)
( AUDITOR )
No. 161, Koozedan Street, Yangon, Myanmar.

Win Thin & Associates * Certified Public Accountants * AUDITORS

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၆(က)/မ-၁၃၁၃/၂၀၁၃(၂၆၄၅-၁)
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ မေ လ ၄ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **High Win International Co., Ltd မှ Contract Processing စနစ်ဖြင့် ငါး/ ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြခြင်း ကိစ္စ**

၁။ High Win International Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၂)၊ ဗန်းမော်အတွင်းဝန်လမ်း၊ မြေကွက်အမှတ် (၁၀၇) နှင့် (၁၁၀) တို့ရှိ မြေ (၂.၇၉၈)ဧကတွင် ရေခဲစက်နှင့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် ကော်မရှင်မှ ခွင့်ပြုမိန့်အမှတ်၊ မနသ- ၅၂၃/၂၀၀၁ (၁၈-၁၁-၂၀၀၁)ကို ထုတ်ပေးခဲ့ပါသည်။

၂။ ယခုအခါ ကုမ္ပဏီမှ အဆိုပြုမြေနေရာတွင် လက်ရှိဆောင်ရွက်လျက်ရှိသည့် လုပ်ငန်းအပြင် နေရာသီးခြား ခွဲခြား၍ Contract Processing စနစ်ဖြင့် ငါး/ ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်းကို ထပ်မံတိုးချဲ့၍ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာပါသည်။

၃။ **စိစစ်တင်ပြချက်**

(က) High Win International Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၂)၊ ဗန်းမော်အတွင်းဝန်လမ်း၊ မြေကွက်အမှတ် (၁၀၇) နှင့် (၁၁၀) တို့ရှိ မြေ (၂.၇၉၈)ဧကတွင် ရေခဲစက်နှင့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် ကော်မရှင်မှ ခွင့်ပြုမိန့်အမှတ်၊ မနသ- ၅၂၃/၂၀၀၁ (၁၈-၁၁-၂၀၀၁)ကို ရရှိခဲ့ပြီး ယခုအခါ အဆိုပါ မြေနေရာတွင် Contract Processing စနစ်ဖြင့် ငါး/ ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်းကို ထပ်မံတိုးချဲ့ခွင့်ပြုပါရန် အဆိုပြုချက်အသစ်အနေဖြင့် တင်ပြလာခြင်း ဖြစ်ပါသည်။

(ခ) လုပ်ငန်း၏ စီးပွားဖြစ် စတင်သောနေ့မှာ (၁၆-၂-၂၀၀၄) ဖြစ်ပါသည်။ အဆိုပြုမြေနေရာ တစ်ခုတည်းတွင် လုပ်ငန်းတိုးချဲ့မည်ဖြစ်၍ လုပ်ငန်း အသစ်ကဲ့သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့်

ပုဒ်မ ၁၃ အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များ ခံစားရန် အကျုံးမဝင်ကြောင်း စိစစ်ရပါသည်။

(ဂ) ယင်းကဲ့သို့ လုပ်ငန်းတိုးချဲ့ခြင်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့် ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးလုပ်ငန်းများဖြစ်သော Anawa Dewi Fishing and General Trading Cooperative Ltd နှင့် Shwe Yamone Manufacturing Co., Ltd တို့အား ကော်မရှင် ၏ (၁၈/၂၀၁၂) (၂၇-၆-၂၀၁၂) အစည်းအဝေး သို့ လည်းကောင်း၊ General Food Technology Industry Co., Ltd အား ကော်မရှင်၏ (၂၀/၂၀၁၂) (၁၁-၇-၂၀၁၂) အစည်အဝေး သို့ လည်းကောင်း ရေခဲစက် နှင့် အအေးခန်း စက်ရုံတည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်းအပြင် Contract Processing စနစ်ဖြင့် ငါး/ ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်း တိုးချဲ့ထုတ်လုပ်ခွင့်ကို တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

(ဃ) ယခုတင်ပြသည့် High Win International Co., Ltd မှ အဆိုပြုမြေနေရာတွင် လက်ရှိဆောင်ရွက်လျက်ရှိသည့် လုပ်ငန်းအပြင် Contract Processing စနစ်ဖြင့် ငါး၊ ပုစွန်ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်းကို ထပ်မံတိုးချဲ့လုပ်ကိုင်ခွင့်အား ကော်မရှင်မှ သဘောတူပါက သတ်မှတ်သည့် ဝန်ဆောင်ခပေးသွင်း၍ ကော်မရှင်ခွင့်ပြုမိန့်တွင် လုပ်ငန်းထပ်မံတိုးချဲ့ခြင်းကို ပြင်ဆင်ပေးရမည်ဖြစ်ပါသည်။

(င) ကုမ္ပဏီမှ တင်ပြသည့် လုပ်ငန်းနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီနှင့် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနတို့သို့ သဘောထားတောင်းခံခဲ့ရာ ကန့်ကွက်ရန် မရှိပါကြောင်း နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ Environmental Management Plan ကို ရေးဆွဲ၍ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(စ) Contract Processing လုပ်ငန်း လုပ်ကိုင်ရန် ဂျပန်နိုင်ငံ Matsuoka Co., Ltd နှင့် ချုပ်ဆိုထားသော Memorandum of Agreement တင်ပြထားပါသည်။

(ဆ) Contract Processing စနစ်အရ ဂျပန်နိုင်ငံမှ Vanamei (White Prawn) ကုန်ကြမ်းများကို တင်သွင်းပြီး သန့်စင် အေးခဲထုတ်ပိုးပြီး PPV, Butterfly, Nobishi စသည်ဖြင့် အမျိုးအစား ခွဲခြားပြီး ပြည်ပ သို့ ပြန်လည် တင်ပို့မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဇ) ကုမ္ပဏီ၏ လုပ်ငန်း စတင်သည့်နှစ်မှ (၂၀၁၂-၂၀၁၃)ဘဏ္ဍာရေးနှစ်အထိ ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေကို အောက်ပါဇယားဖြင့် တင်ပြအပ်ပါသည်-

(ကျပ်/ US$ = သန်း)

| စဉ် | အကြောင်းအရာ | မူလအဆိုပြုချက်အရ ရင်းနှီးမြှုပ်နှံမှု | | ၂၀၁၂-၂၀၁၃ ဘဏ္ဍာနှစ် အထိ သုံးစွဲပြီး ရင်းနှီးမြှုပ်နှံမှု | | Contract Processing အရ ရင်းနှီးမြှုပ်နှံငွေ | |
|---|---|---|---|---|---|---|---|
| | | ကျပ် | US$ | ကျပ် | US$ | ကျပ် | US$ |
| ၁။ | ငွေ | ၂၉.၅၀ | - | ၂၉.၅၀ | - | - | - |
| ၂။ | စက်ပစ္စည်း | ၁.၉၈ | ၀.၃၃ | ၃၈၀.၄၅ | ၀.၃၆ | ၂၅.၅၀ | ၀.၀၃ |
| ၃။ | မြေ | ၂၅.၂၀ | - | ၂၅.၂၀ | - | - | - |
| ၄။ | အဆောက်အအုံ | ၆၀.၀၀ | - | ၁၀၃.၄၅ | - | - | - |
| | **စုစုပေါင်း** | **၁၁၆.၆၈** | **၀.၃၃** | **၅၃၈.၅၇** | **၀.၃၆** | **၂၅.၅၀** | **၀.၀၃** |

ကုမ္ပဏီ၏ မူလအဆိုပြုချက်အရ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၃၃) သန်းအပါအဝင် ကျပ်(၁၁၆.၆၈)သန်း ဖြစ်ပါသည်။ ၂၀၁၂-၂၀၁၃ ဘဏ္ဍာရေးနှစ် အထိ သုံးစွဲပြီး ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၃၆)သန်း အပါအဝင် ကျပ် (၅၃၈.၅၇) သန်း သုံးစွဲပြီးဖြစ်ပြီး ယခု Contract Processing စနစ်အရ လုပ်ငန်း တိုးချဲ့ လုပ်ကိုင်ရန် ကျပ်(၂၅.၅၀)သန်း [ အမေရိကန်ဒေါ်လာ (၀.၀၃)သန်း တန်ဖိုးရှိ ] စက်ပစ္စည်းများကို ဝယ်ယူ တပ်ဆင်ပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

[မှတ်ချက်။ Contract Processing လုပ်ကိုင်ရန် စက်ပစ္စည်းအတွက် သုံးစွဲမည့် US$ (၀.၀၃)သန်း (ကျပ် ၂၅.၅၀ သန်း) သည် ၂၀၁၂-၂၀၁၃ ဘဏ္ဍာနှစ်အထိ သုံးစွဲပြီး ရင်းနှီးမြှုပ်နှံမှု စာရင်း တွင် အပါအဝင် ဖြစ်ပါသည်။]

(ဈ) မူလရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၀.၃၃)သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၁၆.၆၈) သန်း မှ Contract Processing လုပ်ငန်း တိုးချဲ့ လုပ်ကိုင်ခြင်းကြောင့် အမေရိကန်ဒေါ်လာ (၀.၃၆)သန်း အပါအဝင် ကျပ် (၅၃၈.၅၇)သန်း သို့ ရင်းနှီးမြှုပ်နှံမှု တိုးမြင့်ခြင်းကို ကော်မရှင် ခွင့်ပြုမိန့်တွင် ပြင်ဆင်ရမည်ဖြစ်ပါသည်။

(ည) ကုမ္ပဏီမှ နိုင်ငံတော်သို့ ၂၀၁၀-၂၀၁၁ ဘဏ္ဍာနှစ်တွင် ဝင်ငွေခွန် ကျပ်(၁.၅၆)သန်း၊ ၂၀၁၁-၂၀၁၂ ဘဏ္ဍာနှစ်တွင် ဝင်ငွေခွန် ကျပ်(၄.၆၅)သန်း ပေးဆောင်ပြီးကြောင်း၊ ကုန်သွယ်လုပ်ငန်းခွန်အား Export ပြုလုပ်စဥ် MICB ဘဏ်မှအပြီး ဖြတ်ပါကြောင်း နှင့် ပြည်တွင်းအခွန်များ ဦးစီးဌာနမှ ၂၀၁၀-၂၀၁၁ ဘဏ္ဍာရေးနှစ် အထိ အခွန် အပြီးသတ် စည်းကြပ်ပြီးကြောင်း အထောက်အထား တင်ပြထားပါသည်။ ၂၀၁၁-၂၀၁၂ ဘဏ္ဍာရေးနှစ် အတွက် ကြိုတင်ခွန် ကျပ် (၅၀၀,၀၀၀)သိန်း ပေးဆောင် ထားပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

(ဋ) Contract Processing လုပ်ကိုင်ခြင်းဖြင့် ပုံမှန်(၅)နှစ်မြောက်တွင် နိုင်ငံတော်၏ အကျိုးအမြတ်အဖြစ် ဝင်ငွေခွန် ကျပ်(၂၈.၈၆)သန်း ရရှိမည်ဖြစ်ကြောင်း စိစစ်တွေ့ ရှိရပါသည်။

(ဌ) Contract Processing စနစ်ဖြင့် လုပ်ငန်းတိုးချဲ့ လုပ်ကိုင်ခြင်းကြောင့် မူလ ခန့်ထားပြီးအလုပ်သမား (၁၂၀)ဦးမှ နောက်ထပ် အလုပ်သမား (၅၄)ဦး ထပ်မံ၍ အလုပ်အကိုင် အခွင့်အလမ်း ရရှိမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဍ) Contract Processing လုပ်ကိုင်ရန် ကော်မရှင်မှ လုပ်ငန်း အဟောင်း (၃)ခုအား ကော်မရှင်ခွင့်ပြုမိန့်တွင် ဖြည့်စွက် ပြင်ဆင်ပေးခဲ့ပြီး လုပ်ငန်း အသစ်(၃)ခုအား ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ High Win International Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာ မြို့နယ်၊ စက်မှုဇုန်(၂)၊ ဇန်းမော်အတွင်းဝန်လမ်း၊ မြေကွက်အမှတ် (၁၀၇) နှင့် (၁၁၀) တို့ရှိ မြေ (၂.၇၉၈)ဧကတွင် လက်ရှိဆောင်ရွက်လျက်ရှိသည့် ရေခဲစက်နှင့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းအပြင် Contract Processing စနစ်ဖြင့် ငါး၊ ပုစွန်ပြုပြင် အေးခဲထုတ်လုပ်ခြင်း လုပ်ငန်းကို ထပ်မံတိုးချဲ့၍ ဆောင်ရွက်ခွင့် ပြုပါရန် နှင့် တိုးချဲ့ဆောင်ရွက်ခွင့် ပြုပါက ရင်းနှီးမြှုပ်နှံမှု ပမာဏ အမေရိကန်ဒေါ်လာ (၀.၃၆)သန်း အပါအဝင် ကျပ် (၅၃၈.၅၇)သန်း သို့ တိုးမြှင့်ခွင့်ပြုပါရန် လမ်းညွှန်မှုခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ ( ၅ ) / စီးပွား
ရက် စွဲ ၊ ၂၀၁၃ ခုနှစ် ၊ ဧပြီလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၂-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/ မ - ၁၃၁၃ / ၂၀၁၃ ( ၂၇၀၇ - ည)

၁။ ရန်ကုန်မြောက်ပိုင်းခရိုင်၊ ရွှေပြည်သာမြို့နယ်၊ ဗန်းမော်အတွင်းဝန်လမ်း၊ စက်မှုဇုန် (၂)၊ မြေကွက်အမှတ် (၁၀၇/၁၁၀) ရှိ မြေ (၂.၇၉၈) ဧကတွင် Contract Processing နှင့် Normal စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အအေးခန်းစက်ရုံတည်ထောင်၍ ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် High Win International Co., Ltd. က တင်ပြလာမှုအပေါ် သဘောထား မှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ညှိနှိုင်းမေတ္တာ ရပ်ခံလာခြင်းနှင့် ပက်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ကုမ္ပဏီ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်မည့် နေရာမှာ ရွှေပြည်သာစက်မှုဇုန် (၂) အတွင်း၌ဖြစ်ပြီး ကုမ္ပဏီပိုင်မြေ (၂.၇၉၈) ဧကတွင် လုပ်ငန်းဆောင်ရွက်မည်ဖြစ်သဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်ခြင်းမရှိပါ။

(ခ) ကုမ္ပဏီမှာ လက်ရှိတွင် ငါး/ပုစွန် အေးခဲထုတ်လုပ်ခြင်းလုပ်ငန်းအား ဝန်ထမ်းအင်အား (၁၂၀) ဦးခန့်အပ်ထားရှိ၍ ဆောင်ရွက်လျက်ရှိရာ အဆိုပြုလုပ်ငန်းဖြစ်သည့် (CMP/CPP) စနစ်ဖြင့် ငါး/ပုစွန် ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်းအား တိုးချဲ့လုပ်ကိုင်နိုင်မည်ဆိုပါက ဝန်ထမ်းအင်အား (၁၇၄) ဦးထိ တိုးချဲ့

ခန့်ထားနိုင်မည်ဖြစ်သဖြင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) ဖော်ပြပါမြေနေရာအား လုပ်ငန်းအတွက်အသုံးပြုခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၂၈-၃-၂၀၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၃)၊ ဆုံးဖြတ်ချက်အပိုဒ် (၇၀) အရ High Win International Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း တင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
ရွှေပြည်သာမြို့နယ် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
High Win International Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

ဂ.305
14.3.13
၃၃ ၁၄/၃

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁/၂၀၀(ည)/နပတ/ ၃၀၁၀/ ၅၆၂
ရက်စွဲ၊၂၀၁၃ခုနှစ်၊မတ်လ ၁၃ ရက်

အကြောင်းအရာ။ အအေးခန်းစက်ရုံတည်ထောင်၍ Contract Processing နှင့် Normal စနစ်(၂)မျိုးဖြင့် ငါး/ပုစွန်ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် တင်ပြခြင်း

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၂၇- ၂- ၂၀၁၃ ) ရက်စွဲပါ စာအမှတ်၊ ရက- ၆(က)/ မ-၃၂၁၃/၂၀၁၃ (၂၇၀၇-၅)
(၂) ငါးလုပ်ငန်းဦးစီးဌာန၏ ( ၁၁- ၃- ၂၀၁၃ ) ရက်စွဲပါ စာအမှတ်၊ ငလ/ နပတ-၅/၂၀၁၂ - ၂၀၁၃/၁၆၅၈

၁။ High Win International Co,Ltd သည်ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဗန်းမော် အတွင်းဝန်လမ်း၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ် (၁၀၇/၁၁၀) ရှိ မြေ (၂.၇၉၈) ဧကတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်၊ မနသ-၅၂၃/၂၀၀၁ (၁၈-၁၁-၂၀၁၁)ဖြင့် နိုင်ငံတကာအဆင့်မီ ငါး/ပုစွန် အအေးခန်းစက်ရုံတည်ထောင်ဆောင်ရွက်၍ Normalစနစ်ဖြင့် ငါး/ပုစွန်ပြုပြင်အေးခဲခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ရရှိပြီးဖြစ်ပါသည်။ အဆိုပါကုမ္ပဏီ၏ခွင့်ပြုမိန့်မူရင်းတွင် Contract Processing လက်ခစားအပ်ကုန်စနစ်ဖြင့် လုပ်ကိုင်ခွင့်အားဖြည့်စွက် လုပ်ကိုင်ခွင့်ပြုပါရန် High Win International Co,Ltd မှတင်ပြချက်အပေါ် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏သဘောထားပြန်ကြားပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ High Win International Co,Ltd ၏အဆိုပြုချက်ပါ လုပ်ငန်းနှင့်စပ်လျဉ်း၍ စိစစ်ချက်အား အောက်ပါအတိုင်းတင်ပြအပ်ပါသည်-

(က) ကုမ္ပဏီအဆိုပြုချက်တွင် ဖော်ပြထားသော Contract Processing စနစ်အတွက် ရေငန်၊ပုစွန်တစ်နှစ်ပျမ်းမျှကုန်ကြမ်း(၂၈၂)တန်မှကုန်ချော(၂၃၄) တန်ခန့်ထွက်ရှိမည်ဖြစ်၍ တစ်ရက်လျှင် ကုန်ချော(၀.၇၈) တန်ခန့်ထွက်ရှိမည်ဖြစ်ပြီး၊ ကုန်ချောထွက်ရှိမှု

နှုန်း Yield% မှာ ၇၅%-၈၅% ဖြစ်ပါသည်။ အဆိုပြုတင်ပြသည့် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှုရှိသည်ကိုတွေ့ရပါသည်။

(ခ) ကုမ္ပဏီမှဆောင်ရွက်မည့် Contract Processing စနစ်အတွက် ရေခဲ/ပုစွန်၏ လက်ခဈေးနှုန်းမှာ 1 Kg ပျမ်းမျှ အမေရိကန်ဒေါ်လာ (၀.၇) ဖြစ်ပါသည်။ High Win International Co,Ltd၏ အဆိုပြုချက်တွင်ဖော်ပြထားသော လက်ခဈေးနှုန်းထားမှာ ဆီလျော်မှုရှိကြောင်းစိစစ်တွေ့ရှိရပါသည်။

(ဂ) စက်ရုံတွင် တပ်ဆင်မည့် ကုန်ချောထုတ်လုပ်ရန် စက်များ၏ Capacity မှာ ငါး/ပုစွန် ပြုပြင်ထုတ်လုပ်ရန်အတွက် Contact Freezer (0.5 MT /2 hr ) 2 Nos ၊ Air Blast Freezer (6 MT/8hr) 1 Nos ၊ Contact Freezer/ IQF Freezer (0.5 MT/2hr) 1 Nos၊ Cold Store (250 MT) 2 Nos ၊ Flake Ice (8 MT) 1Nos တပ်ဆင်ပြီးဖြစ်ကြောင်း၊ အဆိုပါစက်များ၏ Capacity အရ အနည်းဆုံး တစ်နေ့ငါး/ပုစွန် (၄)တန်ထုတ်လုပ်နိုင်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဃ) အဆိုပါစက်များကိုကိုင်တွယ်မောင်းနှင်ရန်အတွက်အင်ဂျင်နီယာ( ၂ )ဦး အပါအဝင်၊ ကုန်ကြမ်း/ ကုန်ချောပစ္စည်းများ ကိုင်တွယ်ဆောင်ရွက်နိုင်ရန်အတွက်၊ ကာယဉာဏ လုပ်သား Normal စနစ်အတွက် (၁၂၀) ဦး ခန့်ထားပြီး CMP စနစ်အတွက် (၅၄) ဦး ထပ်မံခန့်ထားမည်ဖြစ်သဖြင့် စုစုပေါင်း(၁၇၄)ဦးဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ကုန်ချောထုတ်လုပ်မှုနှင့်စက်အင်အားလူအင်အား အချိုးအစား ညီမျှမှုရှိကြောင်း တွေ့ရှိ ရပါသည်။

(င) အဆိုပြု လုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ခြေကိုက်မှု ရှိပါကြောင်း အကျိုး/အမြတ်တွက်ချက်မှုဇယားနှင့်အတူ တင်ပြအပ်ပါသည်။

၃။ အထက်အပိုဒ်(၂)ပါ စိစစ်ချက်အပြင်လုပ်ငန်းနှင့် စပ်လျဉ်းသည့် ကျွမ်းကျင်မှုနည်းပညာများကို အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုတင်ပြသည့်စက်ရုံမြေနေရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန်ရေဆိုးများကို သန့်စင်သောစနစ်၊ အနံ့ဆိုးများကို သန့်စင်သော စနစ်၊ မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်များဆောင်ရွက်ထားရှိမည့်အစီအမံများကို စိစစ်တွေ့ရှိရပါသည်။

(ခ) ယခုစက်ရုံမှာ မြေအကျယ် ( ၂.၇၉၈ ) ဧကရှိပြီး EU Standard နှင့် အညီ၊ စက်ရုံဆောက်လုပ်ရန်သင့်လျော်မှုရှိပါသည်။နိုင်ငံသားများအနေဖြင့် အလုပ်အကိုင်အခွင့်

အလမ်းများပိုမိုရရှိနိုင်ခြင်း၊ ကုန်ကြမ်းရှားပါးချိန်တွင် အအေးခန်းစက်ရုံများစွမ်းအား ပြည့်လည်ပတ်နိုင်ခြင်း၊ ပြုပြင်ထုတ်လုပ်သည့် နည်းပညာသစ်များ ရရှိနိုင်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြင့်မြတ်သော အောင်မြင်မှုအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်( High Win International Co,Ltd)မှအအေးခန်းစက်ရုံတွင် Contract Processingနှင့် Normal စနစ်ဖြင့် ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်မှုရှိပါကြောင်း မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၏စိစစ်တွေ့ရှိချက်နှင့်အတူ သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းမြင့်မောင်၊ဒုတိယညွှန်ကြားရေးမှူးချုပ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူကို
(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန
(၂) အုပ်ချုပ်မှုဒါရိုက်တာ High Win International Co,Ltd
(၃) ရုံးလက်ခံ
(၄) မျှော

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

**စာအမှတ်** ၂/၂၂၀(ခ)(၆)/(၁၇၆ / ၂၀၁၃)
**ရက်စွဲ** ၂၀၁၃ ခုနှစ်၊ မတ်လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>High Win International Company Limited မှ နိုင်ငံတကာအဆင့်မီ အအေးခန်းစက်ရုံ တည်ထောင်၍ ငါး/ပုစွန် ပြုပြင်အေးခဲထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ</u>

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၂-၂၀၁၃ ရက်စွဲပါစာအမှတ်- ရက - ၆ (က) / မ - ၁၃၁၃ / ၂၀၁၃ (၂၇၁၇-၄)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ High Win International Company Limited သို့ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဗန်းမော်အတွင်းဝန်လမ်း၊ စက်မှုဇုံ (၂)၊ မြေကွက်အမှတ် (၁၀၇/ ၁၁၀) ရှိ မြေ(၂.၇၉၈)ဧကတွင် Contract Processing နှင့် Normal စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အအေးခန်းစက်ရုံတည်ထောင်၍ ငါး/ပုစွန် ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ စီမံကိန်း အဆိုပြုလွှာအားစိစစ်ရာတွင် ပူးတွဲဖော်ပြထားသော Project Profile ၌ အဓိက ထုတ်ကုန်များဖြစ်သည့် ငါးနှင့် ပုစွန် (Fish and Prawn)ကိုပြည်ပဈေးကွက်သို့ (၁၀၀%) တင်ပို့သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းအတွက် နှစ်စဉ်လောင်စာဆီလိုအပ်မှု၊ နှစ်စဉ်ရေလိုအပ်မှု၊ နှစ်စဉ်ကုန်ကြမ်းလိုအပ်မှု၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ထိန်းသိမ်းဆောင်ရွက်ထားမှုအခြေအနေများ၊ မီးဘေးကြိုတင်ကာကွယ်မှုစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအမံများ ဖော်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပါလုပ်ငန်းကြောင့် အောက်ဖော်ပြပါ ပတ်ဝန်းကျင်ထိခိုက်နိုင်မှုများ ဖြစ်ပေါ်နိုင်ပါသည်-

(ဂ) ရေထွက်ပစ္စည်းသိုလှောင်ရန် အအေးခန်းနှင့် ရေခဲစက်မှထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများနှင့် ငါးအသေအကြေများကြောင့် အနံ့အသက်များထွက်ရှိလာပြီး ပတ်ဝန်းကျင်ညစ်ညမ်းမှု၊

(ခ) စက်ရုံမှထွက်ရှိလာသည့် စွန့်ပစ်ပစ္စည်းများ၊ အမှိုက်သရိုက်များ၊ စွန့်ပစ်ရေဆိုးများကို စနစ်တကျ စီမံခန့်ခွဲမည့်အစီအစဉ်များ မပါရှိသဖြင့် စက်ရုံပတ်ဝန်းကျင် ညစ်ညမ်းမှု၊

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ High Win International Company Limited သို့ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဗန်းမော်အတွင်းဝန်လမ်း၊ စက်မှုဇုံ (၂)၊ မြေကွက်အမှတ် (၁၀၇/ ၁၁၀) ရှိ မြေ(၂.၇၉၈)ဧကတွင် Contract Processing နှင့် Normal စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အအေးခန်းစက်ရုံတည်ထောင်၍ ငါး/ပုဇွန် ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အအေးခန်းများတွင် အသုံးပြုသည့် အိုဇုန်းလွှာကို ထိခိုက်ပျက်စီးစေသော CFC (Chloro-Fluorocarbon) , Carbon Tetrachloride နှင့် Halon ထုတ်လုပ်မှုနှင့် သုံးစွဲမှုကို ဖွံ့ဖြိုးဆဲနိုင်ငံများတွင် ၂၀၁၀ ပြည့်နှစ်မှ စတင်ရပ်ဆိုင်းထားပြီးဖြစ်သဖြင့် အစားထိုး ဒြပ်ပစ္စည်းအဖြစ် Hydro Fluorocarbon (HFC) - 13 4a (R-134 a) ကို အစားထိုးသုံးစွဲရန်၊

(ခ) အအေးခန်း၊ လေအေးပေးစက်များနှင့် ဆိုဖာရမြှုပ်များတွင် အသုံးပြုသော Hydro Fluorocarbon (HCFC) - 22 (R - 22) ကို ဖွံ့ဖြိုးဆဲနိုင်ငံများတွင် သုံးစွဲခွင့်ပြုထားသော်လည်း ယခုအခါ HCFCs သုံးစွဲမှုကို ၂၀၁၃ ခုနှစ်မှ ၂၀၃၀ ခုနှစ်အတွင်း အဆင့်ဆင့်လျှော့ချရပ်ဆိုင်းပြီး အစားထိုးဒြပ်ပစ္စည်း သုံးစွဲမှုလုပ်ငန်းများကို အကောင်အထည်ဖော်ရန်။

(ဂ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၁-၂၀၁၃ ရက်စွဲပါအမိန့်ကြော်ငြာစာ အမှတ် (၁/၂၀၁၃)အရ လုပ်ငန်းအမျိုးအစားအပေါ် မူတည်၍ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်းတို့ကို ဆောင်ရွက်ပြီးမှသာ စိစစ်ခွင့်ပြုပါရန်။

(ဃ) အဆိုပါ ဆန်းစစ်မှုများကို အခြေခံ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအမံများ (Environ- Mental Management Plan- EMP) များကို အသေးစိတ်ရေးဆွဲတင်ပြပြီး စီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်။

(င) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့် တည်ဆဲပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေများကို လိုက်နာရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၃(၂၉၆၃)
ရက် စွဲ၊ ၂၀၁၃ ခုနှစ် မတ်လ ၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **High Win Internatinal Co., Ltd မှ CMP စနစ်ဖြင့် ငါး/ပုဇွန်ပြုပြင် အေးခဲထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်အပေါ် သဘောထားမှတ်ချက် ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၇.၂.၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၃၁၃/၂၀၁၃(၂၇၀၇-၃)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊စက်မှုဇုန်(၂)၊ ဗန်းမော်အတွင်းဝန်လမ်း၊ မြေကွက်အမှတ်(၁၀၇/၁၁၀)ရှိ မြေဧက(၂.၇၉၈ဧက)တွင် Contract Processing နှင့် Normal စနစ်ဖြင့် နိုင်ငံတကာအဆင့်မီအအေးခန်းစက်ရုံ တည်ထောင်၍ ငါး/ပုဇွန်ပြုပြင် အေးခဲထုတ်လုပ်ခြင်း လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်မည့် High Win Internatinal Co., Ltd ၏ အအေးခန်းစက်ရုံသို့ CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ဥက္ကဋ္ဌ၊ အလုပ်ရုံ နှင့် အလုပ်သမားဥပဒေ စစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန် ၊ အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေး ဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးအောင်ခင်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်မို့မို့သွင်၊ ငါးလုပ်ငန်းအဖွဲ့ချုပ်မှ ကျွမ်းကျင်ပညာရှင် ဦးတင်လှ နှင့် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်နွဲ့နွဲ့ဝင်းတို့သည် ၄.၃.၂၀၁၃ ရက်နေ့ (၁၄း၀၀)နာရီတွင် ရောက်ရှိ၍ တာဝန်ရှိသူများနှင့် စက်ရုံတွင်း လှည့်လည်ကြည့်ရှု တွေ့ဆုံမေးမြန်းခဲ့ပါသည်။

၂။ စက်ရုံအား ၂၆.၂.၂၀၀၄ ခုနှစ်မှစ၍ စတင်လည်ပတ်ခဲ့ပြီး၊ အလုပ်သမား ကျား(၄၀)ဦး၊ မ(၈၀)ဦး၊ ပေါင်း(၁၂၀)ဦးဖြင့် လုပ်ကိုင်လျက်ရှိပြီး မြန်မာနိုင်ငံမှ ရေချို၊ရေငန် ငါး/ပုဇွန်များ ကုန်ကြမ်း ရယူ၍ ဂျပန်၊ ဟောင်ကောင်၊ တရုတ်နိုင်ငံများသို့ ကုန်ချော တင်ပို့လျက်ရှိကြောင်း သိရှိရပါသည်။

၃။ High Win Internatinal Co., Ltd ၏ အဆိုပြုချက်အား အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) **CMP ကုန်ကြမ်းလိုအပ်ချက် နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိ/မရှိ**
အဆိုပြုချက်ပါ ကုန်ကြမ်းရရှိနိုင်မှုနှင့်ပတ်သက်၍ Normal စနစ်အတွက် ရေငန်ပုစွန် တစ်နှစ်လျှင် ပျမ်းမျှကုန်ကြမ်း(၃၄၀)တန်မှ ကုန်ချော(၂၈၂.၂၀)တန်ခန့် ထွက်ရှိမည်

ဖြစ်ရာ တစ်ရက်လျှင် ကုန်ချော(၁.၉၄)တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး CMP စနစ်အတွက် ရေခဲနပ်ပုစွန်တစ်နှစ်လျှင် ပျမ်းမျှကုန်ကြမ်း(၂၄၀)တန်မှ ကုန်ချော(၁၉၉.၂၀)တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော(၀.၆၆)တန်ခန့် ထွက်ရှိမည်ဖြစ်ကြောင်း တွေ့ရ၍ ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထွက်ရှိမှု အချိုးအစား ညီညွတ်မှုရှိပါသည်။

( ခ ) **CMP လက်ခနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိ/မရှိ၊** အဆိုပြုချက်ပါ CMP ရေခဲနပ်ပုစွန်လက်ခဈေးနှုန်းမှာ 1 kg လျှင် US$ (0.70)ရရှိသဖြင့် လက်ခနှုန်းထားမှာ ဆီလျော်မှုရှိကြောင်း တွေ့ရှိရပါသည်။

( ဂ ) **နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အား၊ လူအင်အား အမျိုးအစား ညီမျှမှု ရှိ/မရှိ၊** အဆိုပြုချက်ပါ ကုန်ချောထုတ်လုပ်ရန် စက်များအနက် ငါးပုဇွန်ပြုပြင်ထုတ်လုပ်ရန် အတွက် Contact Freezer (0.5 MT/2 hr) 2 Nos, Air Blast Freezer (6 MT/8 hr) 1 Nos, Contact Freezer/IQF Feerzer (0.5 MT/2 hr) 1 No, Cold Store (250 MT) 2 Nos, Flake Ice (8 MT) 1 No, တပ်ဆင်ပြီးဖြစ်၍ အနည်းဆုံး (၁)ရက် လျှင် တစ်နေ့ပုစွန်(၄)တန်ခန့်ထုတ်လုပ်နိုင်ပါသည်။ အဆိုပါစက်များအား မောင်းနှင်ရန် အင်ဂျင်နီယာ(၂)ဦး အပါအဝင် ကုန်ကြမ်း/ကုန်ချောပစ္စည်းများ ထုတ်ပိုးဆောင်ရွက်ရန် လုပ်သား(၁၅၀)ဦးအသုံးပြုမည်ဖြစ်၍ လူအင်အားစက်အင်အား အချိုးအစားညီညွတ်မှု ရှိပါသည်။

၄။ သို့ဖြစ်ပါ၍ အဆိုပြုလွှာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ရေဆိုးများကို သန့်စင်သော စနစ်၊ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်များ ဆောင်ရွက်ထားရှိမည့် အစီအမံများကို စိစစ်တွေ့ရှိရ ပါသည်။ ငါးလုပ်ငန်းဦးစီးဌာန၏ Food Safety & Quality Control ဆိုင်ရာ လုပ်ထုံး၊ လုပ်နည်း နှင့်အညီ တည်ဆောက်နိုင်ခြင်း၊ ထုတ်လုပ်မည့် ကုန်ချောပမာဏ နှင့် ကိုက်ညီအောင် ကုန်ကြမ်း ရရှိနိုင်ခြင်း စသည့် အားသာချက်များကြောင့် High Win Internatinal Co., Ltd အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက ကုန်ထုတ်စွမ်းအားမြှင့်တင်နိုင်မည်ဖြစ်၍ Contract Processing နှင့် Normal စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အအေးခန်းစက်ရုံ တည်ထောင်၍ ငါး/ပုဇွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက် သင့်ကြောင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်။

၅/၃/၁၃

ဥက္ကဋ္ဌ(ကိုယ်စား)
(မောင်မောင်ကျော်၊ ရုံးအဖွဲ့မှူး)
(အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

- အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
 (CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)

- အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန (CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
- High Win Internatinal Co., Ltd
- ရုံးလက်ခံ
- မျှောစာတွဲ

HIGH WIN INTERNATIONAL COMPANY LIMITED
မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်
NO 107-110, BAMAW AHTWINWUN ROAD, INDUSTRIAL ZONE (2), (39),
SETHMU QUARTER, SHWEPYITHA, YANGON, MYANMAR.
TEL : 095-1-728014, 618155, FAX / TEL : 095-1-618058, E-mail : highwin@mptmail.net.mm

58
၅/၄

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

M-359
29.3.13
၁၁၉-၅/၄

ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ မတ်လ (၁၈)ရက်

အကြောင်းအရာ ။ **High Win International Co.,Ltd မှ Contract Processing / Normal စနစ်ဖြင့် နိုင်ငံတကာအဆင့်မီအအေးခန်းစက်ရုံတည်ထောင်၍ ငါး/ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃-၃-၂၀၁၃)ရက်စွဲပါစာအမှတ် - ရက-၆ (က) / မ-၁၃၁၃/၂၀၁၃ (၃၄၀၃)

High Win International Co.,Ltd မှ မြေကွက်အမှတ် (၁၀၇/၁၁၀)၊ ဗန်းမော်အတွင်းဝန်လမ်း၊စက်မှုဇုန် (၂)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၂. ၇၉၈)ဧကတွင် Contract Processing / Normal System ဖြင့် နိုင်ငံတကာအဆင့်မီ ငါး/ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းအား ကော်မရှင်၏ အကြိုအစည်းအဝေး (၉/၂၀၁၃)၊ (၂၈-၂-၂၀၁၃)တွင် တင်ပြခဲ့ပြီး ယင်းအစည်းအဝေးဆုံးဖြတ်ချက်အရ-

(က) စက်ပစ္စည်းဝယ်ယူပြီး အထောက်အထား (နောက်ဆက်တွဲ - ၁) အဖြစ်တင်ပြထားပါသည်။

(ခ) ကျွန်တော်များကုမ္ပဏီသည် ကော်မရှင်၏ (၁၈-၁၁-၂၀၀၁)ရက်စွဲပါခွင့်ပြုမိန့်အမှတ် (မနသ/၅၂၃/၂၀၀၁)အရ Nortal System ဖြင့် ငါး/ပုစွန်ပြုပြင်အေးခဲ၍ ပြည်ပတင်ပို့ခွင့်အားရရှိပြီး ဖြစ်ပါသည်။ ယခုအဆိုပြုတင်ပြခြင်းမှာ ဖော်ပြပါခွင့်ပြုမိန့်အရ Normal System အပြင် Contract Processing စနစ်အရ တိုးချဲ့တင်ပို့ခွင့်ပြုရန် တင်ပြခဲ့ခြင်းဖြစ်ပါသည်။ (၉/၂၀၁၃) (၂၈-၂-၂၀၁၃) အစည်း အဝေးဆုံးဖြတ်ချက်အရ ၉ (က)၊ (ဂ)နှင့် အခြားသက်ဆိုင်သည့် နေရာများတွင် ပြင်ဆင်ပေးပို့အပ်ပါသည်။

NO 107-110, BAMAW AHTWINWUN ROAD, INDUSTRIAL ZONE (2), (39),
SETHMU QUARTER, SHWEPYITHA, YANGON, MYANMAR.
TEL : 095-1-728014, 618155, FAX / TEL : 095-1-618058, E-mail : highwin@mptmail.net.mm



(ဂ) လုပ်ငန်းတည်နေရာပြမြေပုံ (ပူးတွဲ-၂)အဖြစ် တင်ပြပါသည်။

(ဃ) Initial Environmental Examination (IEE) စီမံချက်နှင့်စပ်လျဉ်း၍

(၁) ကျွန်တော်များ ကုမ္ပဏီသည် (၁၈-၁၁-၂၀၀၁)ရက်စွဲပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (မနသ / ၅၂၃ / ၂၀၀၁)ဖြင့် ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်းကို Normal စနစ်ဖြင့် ဆောင်ရွက်ခွင့်ရရှိပြီးဖြစ်ပါသည်။ Processing System ဖြင့် တိုးချဲ့ထုတ်လုပ်တင်ပို့ ခွင့်ပြုပါရန် လျှောက်ထားခြင်းဖြစ်ပါသည်။
သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးစီစဉ်ဆောင်ရွက်မှုနှင့် စပ်လျဉ်း၍-

(က) ဝယ်ယူခြင်းနှင့် (သို့မဟုတ်) တင်သွင်းလာသည့်ပုဇွန်ကုန်ကြမ်းများအား ငါးလုပ်ငန်းဦးစီးဌာန (FIQC)မှ စစ်ဆေးပြီး ခွင့်ပြုချက်ရရှိမှသာ ကုမ္ပဏီမှ ကုန်ကြမ်းလက်ခံခြင်းဆောင်ရွက်ပါသည်။

(ခ) ရရှိသော ကုန်ကြမ်းများအား EU Standard နှင့် အညီ အမှာစာညွှန်ကြားချက်အတိုင်း ပြုပြင်အေးခဲထုတ်လုပ်ခြင်းအားဆောင်ရွက်ပါသည်။ ထိုသို့ဆောင်ရွက်ရာတွင် အလုပ်သမားများ၏ ဆင်ယင်ထုံးဖွဲ့မှု၊ ဝတ်စုံ၊ တကိုယ်ရေသန့်ရှင်းစင်ကြယ်မှုအတွက် လိုက်နာရမည့်စည်းကမ်းများကို Supervisor များမှ စစ်ဆေးပြီး လုပ်ငန်းခွင်အတွင်း ဝင်ရောက်ခွင့်ရှိပါသည်။ လုပ်ငန်းခွင်အတွင်း ပြင်ပပုဂ္ဂိုလ်များဝင်ရောက်ခွင့်အား တားမြစ်ထားပြီး ပုစွန်ကုန်ကြမ်းများအား အခွံချွတ်ခြင်း၊ ချိုးချောင်းထုတ်ခြင်း စသည့်ထုတ်လုပ်မှုတိုင်းတွင် စနစ်တကျနှင့်အစီအစဉ်တကျ သန့်ရှင်းမှုအဓိကထား၍ ဆောင်ရွက်ပါသည်။

ညွှန်ကြားချက်အတိုင်းလိုက်နာဆောင်ရွက်ပြုပြင်ပြီး ပုစွန်ကုန်ချောများအား ရေဖြင့်သန့်ရှင်းဆေးကြောပြီး Export ပြုလုပ်နိုင်ရေး ထုတ်ပိုးဆောင်ရွက်ပါသည်။ ၎င်းထုတ်လုပ်ပြီး ကုန်ချောများအား ငါးလုပ်ငန်းဦးစီး၏ ဓါတ်ခွဲခန်းအတွင်း ရောဂါဘယများပါ/မပါ၊ သန့်ရှင်းစင်ကြယ်မှုရှိ/မရှိ စစ်ဆေး၍ ခွင့်ပြုချက်ရရှိမှသာ တင်ပို့ခြင်းအား အပြီးသတ်ဆောင်ရွက်ခွင့်ရှိပါသည်။

အလုပ်ရုံအတွင်း ပုစွန်ကုန်ချောများအား သန့်ရှင်းဆေးကြောပြီးနောက်တွင် ရှိလာသောရေဆိုးများအား အနယ်စစ်ဇကာအားဖြတ်သန်းစေပြီး၊ အမှိုက်အစအနများအား စစ်ယူလိုက်ပါသည်။ အနယ်အနစ်ကင်းစင်သလောက်ရှိပြီးဖြစ်သော

HIGH WIN INTERNATIONAL COMPANY LIMITED
မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်
NO 107-110, BAMAW AHTWINWUN ROAD, INDUSTRIAL ZONE (2), (39),
SETHMU QUARTER, SHWEPYITHA, YANGON, MYANMAR.
TEL : 095-1-728014, 618155, FAX / TEL : 095-1-618058, E-mail : highwin@mptmail.net.mm



ရေဆိုးအား ကလိုရင်းအိတ်များ ချထားသည့်မြောင်းအတွင်း ဖြတ်သန်းစီးဆင်းစေပြီး အနယ်ထိုင်ကန်သို့ ပို့၍ထပ်မံအနယ်ထိုင်စေပြီး ကန်၏ရေလျှံပေါက်မှ အနယ်ထိုင်ပြီး အကြည်ရည်အား ဒုတိယအကြိမ်ထပ်မံ၍ ကလိုရင်းအိတ်များ ချထားသည့် မြောင်းမှတဆင့် နောက်ဆုံးအနယ်ထိုင်ကန်သို့ ပို့ပါသည်။ ၎င်းကန်တွင် ဖွဲ့နှင့် ကျောက်စရစ်များအားဖြတ်သန်းစေခြင်းဖြင့် ရေအား စိုက်ပျိုးရေးတွင် သုံးစွဲနိုင်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုမရှိသည့်အဆင့်ထိ သန့်ရှင်းစေပြီး ၎င်းမှ ထွက်လာသည့် ရေအား နောက်ဆုံးအကြိမ်အဖြစ် ကလိုရင်းချထားသည့် မြောင်းအတွင်း ဖြတ်သန်းစီးဆင်းစေပြီး ထိုရေတွင် ငါးထည့်စမ်းသပ်၍ ကောင်းစွာ ရှင်သန်နိုင် သည့်အခြေအနေတွင် ချောင်းအတွင်းသို့ စီးဆင်းစေခြင်းဖြင့် လုပ်ငန်းခွင်ကြောင့် ပတ်ဝန်းကျင်တွင် မထိခိုက်စေရေး ဂရုပြုဆောင်ရွက်ထားပါကြောင်း တင်ပြအပ်ပါသည်။

၎င်းနောက်ဆုံးစွန့်ပစ်ရေအား လစဉ်မြို့နယ်စည်ပင်၏ဓါတ်ခွဲခန်းမှ စစ်ဆေးခြင်းနှင့် ငါးလုပ်ငန်းဦးစီးမှုလည်း လစဉ်၊ ကောင်းမွန်သောကုန်ထုတ်လုပ်မှုစနစ် (G.M.S)အဖြစ်နှင့် စွန့်ပစ်ရေ သန့်စင်သည့် Procedure သင့်လျော်ကောင်းမွန်ခြင်းရှိ/မရှိ ရေဆိုးစွန့်ပစ်ခြင်းစနစ်နှင့် စွန့်ပစ်ရေအား ဓါတ်ခွဲစစ်ဆေးစမ်းသပ်ခြင်းများအား ငါးလုပ်ငန်းဦးစီးမှ လစဉ်စစ်ဆေး၍ ခွင့်ပြုချက်ရရှိမှသာ ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ခွင့်ရရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးဝင်းမြင့်
မန်နေဂျင်းဒါရိုက်တာ
မြင့်မြတ်သောအောင်မြင်မှုအပြည်ပြည်ဆိုင်ကုမ္ပဏီလီမိတက်

# HIGH WIN INTERNATIONAL COMPANY LIMITED

## မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်

NO 107-110, BAMAW AHTWINWUN ROAD, INDUSTRIAL ZONE (2), (39),
SETHMU QUARTER, SHWEPYITHA, YANGON, MYANMAR.
TEL : 095-1-728014, 618155, FAX / TEL : 095-1-618058, E-mail : highwin@mptmail.net.mm


သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ မတ်လ(၂၈)ရက်။

အကြောင်းအရာ။ ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်အရ High Win International Co.,Ltd ရှင်းလင်းတင်ပြချက်။**

ရည်ညွှန်းချက် ။ ။ ၁၈-၃-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၃၁၃/ ၂၀၁၃ (၃၆၁၂)။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားပြန်ကြားချက်(က)နှင့်စပ်လျဉ်း၍ ကျွန်တော်များကုမ္ပဏီသည် အိုဇုန်းလွှာပျက်စီးစေသော CFC (Chloro- Fluoro carbon) Carbon Tetrachloride နှင့် Halon ထုတ်လုပ်မှု/ သုံးစွဲမှုမရှိပါကြောင်းနှင့် Ammonia သာသုံးစွဲကြောင်း တင်ပြအပ်ပါသည်။

ပြန်ကြားချက်(ခ)နှင့်စပ်လျဉ်း၍ ကျွန်တော်များကုမ္ပဏီသည် Hydro Fluorocarbon (HFC) သုံးစွဲခြင်းမရှိကြောင်း ဝန်ခံတင်ပြအပ်ပါသည်။

ပြန်ကြားချက်(ဂ)နှင့်စပ်လျဉ်း၍ ကျွန်တော်များကုမ္ပဏီသည် လူနေရပ်ကွက်များနှင့် ထိစပ်ခြင်းမရှိခြင်း၊ ပုစွန်ကုန်ကြမ်းတစ်မျိုးတည်းသာဆောင်ရွက်ခြင်း၊ စွန့်ပစ်ဘေးထွက်မရှိခြင်း၊ ငါး/ပုစွန်ဆေးကြောသည့်ရေဆိုးအားစနစ်တကျသတ်မှတ်ချက်နှင့်အညီ သန့်ရှင်းသည့်စိုက်ပျိုးရေးသုံးစွဲနိုင်ပြီး မြစ်ချောင်းအတွင်းရေသတ္တဝါများထိခိုက်မှုမရှိသည့် ရေသန့်စင်မှုအဆင့်ပြည့်မီမှသာ မြစ်ချောင်းအတွင်း စနစ်တကျစွန့်ပစ်ခြင်း၊ စက်ရုံသည်နိုင်ငံတော်မှ ခွင့်ပြုထားသည့်စက်မှုဇုန်မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြစ်၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိကြောင်း တင်ပြအပ်ပါသည်။

ပြန်ကြားချက်(ဃ)နှင့် စပ်လျဉ်း၍ ကျွန်တော်များကုမ္ပဏီသည် စက်ရုံလည်ပတ်ခွင့်နှင့်စပ်လျဉ်း၍ စည်ပင်သာယာမှ လစဉ်စစ်ဆေးမှုခံယူရပြီး စွန့်ပစ်ရေအားလည်း စည်ပင်မှလစဉ်စည်ပင် ဓါတ်ခွဲခန်းတွင်စွန့်ပစ်ရေ၏အရည်အသွေးကိုဓါတ်ခွဲစစ်ဆေးပြီး ခွင့်ပြုချက်ရမှသာလုပ်ငန်းလည်ပတ်ခွင့်ရှိသလို ငါးလုပ်ငန်းဦးစီးဌာနမှလည်း အလားတူငါး/ပုစွန်ထုတ်လုပ်မှုဖြစ်စဉ်အဆင့်ဆင့်အား စစ်ဆေးခြင်း၊ ထိုသို့စီစစ်ရာတွင် (GMP) (HACCP) စသည့် သတ်မှတ်ချက်များနှင့်အညီ လုပ်ငန်းခွင်အားစီစစ်ခြင်း၊ လုပ်ငန်းခွင်သုံးစွန့်ပစ်ရေအားသန့်စင်ရာတွင် သန့်စင်မှုနည်းလမ်း နောက်ဆုံးအဆင့်စွန့်ပစ်ရေ၏ အဆင့်အတန်းအားစစ်ဆေးခြင်းများကိုလစဉ်စစ်ဆေးဆောင်ရွက်ခြင်းကိုလိုက်နာရပါကြောင်း နှင့် ထုတ်ကုန် (Export Product) အားလည်းဓါတ်ခွဲစစ်ဆေးခွင့်ပြုချက်ရမှသာ တင်ပို့ခွင့် ရရှိပါကြောင်းနှင့် ထုတ်လုပ်မှုဖြစ်စဉ်အစမှအဆုံး နှင့် စွန့်ပစ်ရေသန့်စင်မှု အဆင့်ဆင့်အား စနစ်တကျအသေးစိတ်စည်းမျဉ်းစည်းကမ်းများရေးဆွဲပြီး လိုက်နာဆောင်ရွက်နေပါကြောင်း ကတိပြုတင်ပြအပ်ပါသည်။

ပြန်ကြားချက်(င)နှင့် စပ်လျဉ်း၍ နိုင်ငံတော်မှပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေနှင့် တည်ဆဲပတ်ဝန်းကျင်ဆိုင်ရာဥပဒေများကို လိုက်နာမည်ဖြစ်ပါကြောင်း ကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(WIN MYINT)
MANAGING DIRECTOR
HIGH WIN INTERNATIONAL CO., LTD.

HIGH WIN INTL COMPANY LIMITED

HIGH WIN INTERNATIONAL COMPANY LIMITED

မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်

NO 107-110, BAMAW AHTWINWUN ROAD, INDUSTRIAL ZONE (2), (39),
SETHMU QUARTER, SHWEPYITHA, YANGON, MYANMAR.
TEL : 095-1-728014, 618155, FAX / TEL : 095-1-618058, E-mail : highwin@mptmail.net.mm

---

သို့/-

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ၊ ၂၀၁၃ခုနှစ်၊ဖေဖော်ဝါရီလ (၁၉)ရက်။

အကြောင်းအရာ။ **။ အအေးခန်းစက်ရုံတည်ဆောက်၍ CONTRACT PROCESSING နှင့် NORMAL SYSTEM (၂)မျိုး ဖြင့် ငါး၊ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ကတိဝန်ခံချက်တင်ပြခြင်း။**

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အရဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်High Win International Company Limited သည် မြေကွက်အမှတ် - (၁၀၇/၁၁၀)ဗန်းမော်အတွင်းဝန်လမ်း၊စက်မှုဇုန်(၂)၊ရွှေပြည်သာ မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧက ၂.၇၉၈ဧက တွင်နိုင်ငံတကာ အဆင့်မီ အအေးခန်းစက်ရုံလုပ်ငန်း တည်ဆောက်၍ ငါး၊ပုဇွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်းကို လက်ခစားစနစ် Contract Processing System နှင့်ပြည်တွင်းတွင်ငါးဝယ်ယူစုဆောင်းခွင့်ခွင့်ပြုမိန့်အရကိုယ်ပိုင်ငွေဖြင့်ကုန်ကြမ်းဝယ်ယူစုဆောင်း၍ပြုပြင်ထုတ်ပိုး ပြီးနိုင်ငံခြားသို့တင်ပို့ရောင်းချသည့်စနစ် (Normal System)(၂)မျိုးဖြင့်လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ ထိုသို့ဆောင်ရွက်ရာတွင်အအေးခန်းစက်ရုံနှင့်ပါတ်သက်၍အောက်ပါအတိုင်း ဝန်ခံကတိပြုအပ်ပါသည်။

- ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး၊နိုင်ငံခြားသားမည်သူတစ်ဦးတစ်ယောက်မျှပါဝင်ပိုင်ဆိုင် ခြင်းလုံးဝမရှိကြောင်းဝန်ခံကတိပြုပါသည်။
- လုပ်ငန်းမှထွက်ရှိသောကုန်ချော ပစ္စည်းများကို ပြည်ပဈေးကွက်ကို(၁၀၀ %)တင်ပို့သွားမည်ဖြစ်ပါသည်။
- နိုင်ငံတော်အစိုးရမှမြေယာနှင့်ပါတ်သက်၍သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ညွှန်ကြားချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။
- ဤအဆိုပြု လုပ်ငန်းများဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်လေထု၊ရေထုနှင့်မြေထုတို့ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက်လိုအပ်သောအစီအမံများ၊မီးဘေးကြိုတင်ကာကွယ်မှုများကိုနိုင်ငံတော်မှသတ်မှတ်ထားသည့်လုပ်ထုံးလုပ်နည်းများ၊စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

HIGH WIN INTERNATIONAL COMPANY LIMITED
မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်
NO 107-110, BAMAW AHTWINWUN ROAD, INDUSTRIAL ZONE (2), (39),
SETHMU QUARTER, SHWEPYITHA, YANGON, MYANMAR.
TEL : 095-1-728014, 618155, FAX / TEL : 095-1-618058, E-mail : highwin@mptmail.net.mm

- ဤအဆိုပြုလုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ရာတွင် အသုံးပြုမည့်ပြည်ပမှ တင်သွင်းမည့်စက်များသည် စက်အသစ်များဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။
- ကုမ္ပဏီအနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရပြည်နယ်/တိုင်းဒေသကြီးစက်မှုကြီးကြပ်ရေးနှင့်လုပ်ငန်းစစ်ဆေးမှုညွှန်ကြားရေးဦးစီးဌာနတွင်မှန်ပုံတင်ထားရှိပြီးဖြစ်ပါသည်။
- ထုတ်လုပ်သော ငါးပုစွန် များကို Contract Processing System နှင့် Normal System (၂)မျိုးဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ထုတ်လုပ်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။
- လစာတစ်နှစ်လျှင် ကျပ်- ၁၄၄၀၀၀၀/- (ကျပ်-တစ်ဆယ့်လေးသိန်းလေးသောင်း)နှင့်အထက်ရရှိသူများ၏ပေးဆောင်ရမည့်ဝင်ငွေခွန်ကိုကုမ္ပဏီမှတာဝန်ယူ ပေးသွင်းသွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

ဦးဝင်းမြင့်
မန်နေးဂျင်းဒါရိုက်တာ
မြင့်မြတ်သောအောင်မြင်မှုအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
ဥပဒေ ပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့်ပုဒ်မ ၈

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊

ရက်စွဲ ၊ ၂၀၁၃ခုနှစ်၊ဖေဖော်ဝါရီလ( ၁၉) ရက်

ကျွန်တော်/ကျွန်မ သည်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

(က) အမည် - ဦးဝင်းမြင့်
(ခ) အဖအမည် - ဦးခန်ကွမ်ယုံ
(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် - ၉/မရမ(နိုင်)၀၄၅၇၄၇
(ဃ) နေရပ်လိပ်စာ - တိုက်(၂၇)အောင်ချမ်းသာ(၄)လမ်း၊(၁)ရပ်ကွက်အောင်မြေသာစည်အိမ်ယာ၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး
(င) လူမျိုး၊ဘာသာ - ဗုဒ္ဓဘာသာ
(စ) အဖွဲ့အစည်းအမည် - မြင့်မြတ်သောအောင် အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်
High Win International Co.,Ltd.
(ဆ) လုပ်ငန်းအမျိုးအစား - Contract Processing / Normal စနစ်ဖြင့်ငါး၊ ပုဇွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်း
(ဇ) အဖွဲ့အစည်းတည်နေရာအရပ် - အမှတ် ၁၀၇-၁၁၀ ၁၈ မောအတွင်းဝန်လမ်း၊စက်မှုဇုန်(၂) ရွှေပြည်သာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါကဖက်စပ်ပြုလုပ်မည့်သူများ၏ -

(က) အမည် ---------------------- - ----------------
(ခ) အဖအမည် ---------------------- - ----------------

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ------------------------------

(ဃ) နေရပ်လိပ်စာ ------------------------------

(င) လူမျိုးဘာသာ ------------------------------

(စ) အဖွဲ့အစည်းအမည် ------------------------------

(ဆ) လုပ်ငန်းအမျိုးအစား ------------------------------

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ------------------------------

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခုထက်ပိုပါကသီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား –

(က) ကုန်ထုတ် လုပ်မှုလုပ်ငန်း – Contract Processing /Normal စနစ်ဖြင့်ငါးပုဇွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်း

(ခ)ဝန်ဆောင်မှုလုပ်ငန်း – ------------------------------

(ကုန်ပစ္စည်းအမည် သို့မဟုတ်ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့်စီးပွါးရေးပုံစံ –

(က) နိုင်ငံသား နှင့်နိုင်ငံသား တို့ကအစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

------------------------------

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

--------------- မရှိပါ ---------------

(ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

--------------- မရှိပါ ---------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွါးရေးအဖွဲ့အစည်းပုံသဏ္ဍာန် –

(က) တစ်ဦးတည်းပိုင် – ------------------------------

(ခ) ဖက်စပ် /အစုစပ်လုပ်ငန်း – ------------------------------

(ဂ) လီမိတက်ကုမ္ပဏီ – မြင့်မြတ်သောအောင်မြင်မှုအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်

နောက်ဆက်တွဲ –၁

(ဃ) သမဝါယမ အသင်း – ------------------------------

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟုဖော်ပြ၍ထည့်ဝင်မည့်မတည်ငွေရင်း အမျိုးအစား ၊ စီမံခန့်ခွဲမည့်သူများ၏အမည် ၊နေရပ်လိပ်စာများနှင့် ရာထူးတို့ကိုပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေ အချိုးအစားနှင့်ပမာဏ----------------------------

(ခ)အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား ------------------------------------------------

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ ----------------------------------------------

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၆၀၀,၀၀၀,၀၀၀/-

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင် ကျပ် ၁,၀၀၀/- တန်အစုရှယ်ယာ (၆၀၀,၀၀၀)

(ဂ) အစုရှယ်ယာများကထည့်ဝင်မည့်အစုရှယ်ယာ- ကျပ် ၅၃၈,၃၂၇,၀၀၀/-
ပမာဏ - (၅၃၈၃၂၇) စု

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

| (က) မတည်ငွေရင်းပမာဏ (ထောင်ပေါင်း) | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ (US$) | စုစုပေါင်း (ကျပ်) |
|---|---|---|---|
| (၁) ငွေပမာဏ - | ၂၉၅၀၀ | | ၂၉၅၀၀ |
| (နိုင်ငံခြား မ,တည်ငွေပါဝင်ပါကသီးခြားဖော်ပြရန်) | | | |
| (၂) စက်ပစ္စည်းကရိယာများ တန်ဖိုးပမာဏ | ၇၃၉၅၀ | ၃၆၀.၂၇ | ၃၈၀၁၈၀ |
| (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) နောက်ဆက်တွဲ- ၃ | | | |
| (၃) မြေ | ၂၅၂၀၀ | | ၂၅၂၀၀ |
| (၄) အဆောက်အအုံများ နောက်ဆက်တွဲ-၄ | ၁၀၃၄၄၇ | - | ၁၀၃၄၄၇ |
| စုစုပေါင်း | ၂၃၂၀၉၇ | ၃၆၀.၂၇ | ၅၃၈၃၂၇ |

| (ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် (ထောင်ပေါင်း) | ကျပ် | US$ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)နောက်ဆက်တွဲ-၂ | ၃၀၆၂၃၀ | ၃၆၀.၂၇ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏တန်ဖိုး | | |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | | |
| စုစုပေါင်း | ၃၀၆၂၃၀ | ၃၆၀.၂၇ |

(ဂ) တည်ဆောက်မှုကာလ - (၁) လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၁) လ

(င) တည်ဆောက်မှုစတင်မည့်အချိန် - ခွင့်ပြုမိန့်ရရှိပြီး(၁)လ အတွင်း

၉။ ဆောင်ရွက်မည့်စီးပွါးရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - (Contract Processing / Normal ) စနစ်ဖြင့်ငါးပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း။

(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှု စသည့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ရန်ကုန်တိုင်း၊ရွှေပြည်သာမြို့နယ် ၊မြေတိုင်းရပ် ၀၀၀ ပ်ကွက် အမှတ်-၃၉(စက်မှု )၁၀၇-၁၁၀

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - (Contract Processing / Normal ) စနစ်ဖြင့်ငါးပုစွန် ပြုပြင် အေးခဲ၍ပြည်ပသို့(၁၀၀)ရာခိုင်နှုန်းရောင်းချခြင်း

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

| အမျိုးအစား | အရေအတွက် |
|---|---|
| (၁) ဒီဇယ်ဆီ | ၅၀၀၀ ဂါလံ |
| (၂) ဝါတ်ဆီ | ၁၀၄၈ ဂါလံ |
| (၃) စက်ဆီ | ၅၀၀ ဂါလံ |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | တနေ့လျှင် ၅၀၀ ကီလိုဝပ် |
| ၂။ ဓါတ်ဆီ/ ဒီဇယ်အင်ဂျင်စက်အင်အား | ---------------- |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ---------------- |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | ---------------- |
| ၅။ ပေးပို့သည့်အခြားအား (ရေအား / လေအားစသည်မျ..) | ---------------- |

(စ) နှစ်စဉ်အရေလိုအပ်ချက် - ၃၆၀၀၀၀၀ ဂါလံ

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန် ) - တနေ့ ၁၀၀၀၀ဂါလံ

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | ကျပ်ငွေ (ထောင်ပေါင်း) | နိုင်ငံခြားငွေ (ထောင်ပေါင်း) |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲ- ၆/၇ | - |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ- ၆/၇ | - |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲ- ၇ | - |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု (ပထမနှစ်) | နောက်ဆက်တွဲ– ၈ | |
| (င) | အရင်းကျေကာလ နောက်ဆက်တွဲ- | နောက်ဆက်တွဲ– ၉ | |
| (စ) | အခြားအကျိုးအမြတ်များ နောက်ဆက်တွဲ– ၉/၁၀/၁၁ | - | အလုပ်အကိုင်ပိုမိုရရှိ၍ နည်းပညာသစ်များရရှိပြီး၊ ပြည်ပသို့တင်ပို့ ရောင်းချခြင်းဖြင့် နိုင်ငံတော်အတွက်နိုင်ငံခြားဝင်ငွေရရှိခြင်း။ |
| (ဆ) | အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့် အခြေအနေ | - | နောက်ဆက်တွဲ-၁၀ |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း၊ မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ၊

လက်မှတ်၊ ---------------------------

အမည်၊ ဦးဝင်းမြင့်

ရာထူး၊ မန်နေဂျင်းဒါရိုက်တာ

မြင့်မြတ်သောအောင်မြင်မှုအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်

**High Win International Co.,Ltd.**

(လျှောက်ထားသူ)

နောက်ဆက်တွဲ( ၁ )

# High Win International Co., Ltd.

မြင့်မြတ်သောအောင်မြင်မှုအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်

| စဉ် | အမည် | ရာထူး | နေရပ်လိပ်စာ | မတည်ငွေရင်းပမာဏ |
|---|---|---|---|---|
| ၁ | ဦးလှဝင်း | ဥက္ကဋ္ဌ | အမှတ်(၂၇၅)၊ ဦးဝိစာရလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | ၂၅ % |
| ၂ | ဦးဝင်းမြင့် | မန်နေဂျင်းဒါရိုက်တာ | တိုက်(၂၇)၊ အောင်ချမ်းသာ(၄)လမ်း၊(၁)ရပ်ကွက် ၊အောင်မြေသာစည်အိမ်ယာ၊ကမာရွတ်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ | ၂၅ % |
| ၃ | ဒေါ်လှခင် | ဒါရိုက်တာ | အမှတ်(၂၇၅)၊ ဦးဝိစာရလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | ၁၀.၄၁၅ % |
| ၄ | ဒေါ်ခင်မေလွင် | ဒါရိုက်တာ | တိုက်(၂၇)၊ အောင်ချမ်းသာ(၄)လမ်း၊(၁)ရပ်ကွက် ၊အောင်မြေသာစည်အိမ်ယာ၊ကမာရွတ်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ | ၁၀.၄၁၅ % |
| ၅ | ဒေါ်မိုးမိုးအောင် | ဒါရိုက်တာ | အမှတ်(၂၇၅)၊ ဦးဝိစာရလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | ၁၀.၄၁၅ % |
| ၆ | ဒေါ်မိုးမိုးခိုင် | ဒါရိုက်တာ | အမှတ်(၂၇၅)၊ ဦးဝိစာရလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | ၁၀.၄၁၅ % |
| ၇ | ဦးခန့်ကျင် | ဒါရိုက်တာ | အမှတ်(၂၇၅)၊ ဦးဝိစာရလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | ၄.၁၇ % |
| ၈ | ဦးခင်အောင် | ဒါရိုက်တာ | အို -၅၇၊ကန်ရိပ်သာလမ်း၊ FMI စီးတီး၊ လှိုင်သာယာမြို့နယ် ရန်ကုန်တိုင်းဒေသကြီး။ | ၄.၁၇ % |

# HIGH WIN INTERNATIONAL COMPANY LIMITED

မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်

NO 107-110, BAMAW AHTWINWUN ROAD, INDUSTRIAL ZONE (2), (39),
SETHMU QUARTER, SHWEPYITHA, YANGON, MYANMAR.
TEL : 095-1-728014, 618155, FAX / TEL : 095-1-618058, E-mail : highwin@mptmail.net.mm


သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဧပြီလ( ၂၄ )ရက်။

အကြောင်းအရာ။ ။ **High Win International Co.,Ltd ၏ Contract Processing အဆိုပြုလွှာနှင့်စပ်လျဉ်း၍လိုအပ်သောအချက်အလက်များပေးပို့ခြင်း။**

၁။ ကျွန်တော်များ:High Win International Co မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်အမှတ်-မနသ-၅၂၃/၂၀၀၁ (၁၈.၁၁.၂၀၀၁)ဖြင့် ငါး/ပုစွန်ပြုပြင်အေးခဲခြင်းလုပ်ငန်းကို Normal စနစ်ဖြင့်လုပ်ကိုင်လျှက်ရှိရာ ယခု ကုန်ကြမ်းရရှိမှုအခြေအနေအရ Normal စနစ်အပြင် Contract processing စနစ်ဖြင့်(၂)မျိုးထုတ်လုပ်သွားနိုင်ရန် ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ၁၉.၀၂.၂၀၁၃ နေ့တွင်အဆိုပြုလွှာတင်ပြခဲ့ပြီးဖြစ်ရာ လိုအပ်သော အချက်အလက်များအားအောက်ပါအတိုင်းပြုစုပေးပို့အပ်ပါသည်။

(၁) MIC ခွင့်ပြုမိန့် - မနသ ၅၂၃/၂၀၀၁(၁၈.၁၁.၂၀၀၁)

(၂) စီးပွါးဖြစ်စတင်ဆောင်ရွက်သည့်နေ့ - ၁၆.၀၂.၂၀၀၄

(၃) ဝန်ထမ်းအင်အား

| မူလ(ခန့်ထားပြီး)(Normal) | CMP အတွက်ထပ်မံခန့်ထားရန် | စုစုပေါင်း |
|---|---|---|
| ၁၂၀ ဦး | ၅၄ ဦး | ၁၇၄ ဦး |

(၄) အခွန်ပေးဆောင်မှုအခြေအနေ (နောက်ဆက်တွဲဖော်ပြအပ်ပါသည်)။

(၅) ရင်းနှီးမြှုပ်နှံမှုအခြေအနေ ( ။ )။

လေးစားစွာဖြင့် -

(WIN MYINT)
MANAGING DIRECTOR
HIGH WIN INTERNATIONAL CO., LTD.

# HIGH WIN INTERNATIONAL COMPANY LIMITED

မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်

NO 107-110, BAMAW AHTWINWUN ROAD, INDUSTRIAL ZONE (2), (39),
SETHMU QUARTER, SHWEPYITHA, YANGON, MYANMAR.
TEL : 095-1-728014, 618155, FAX / TEL : 095-1-618058, E-mail : highwin@mptmail.net.mm


ကုမ္ပဏီ၏လုပ်ငန်းစတင်သည့်ခုနှစ်မှ ၂၀၁၂-၂၀၁၃ ဘဏ္ဍာရေးနှစ်အထိ ထည့်ဝင်ပြီးရင်းနှီးမြှုပ်နှံမှု အခြေအနေ ကိုအောက်ပါဇယားဖြင့် တင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | မူလအဆိုပြုချက်အရ ရင်းနှီးမြှုပ်နှံမှု | | ၂၀၁၂-၂၀၁၃ခုနှစ် အထိသုံးစွဲပြီးရင်းနှီးမြှုပ်နှံမှု | | Contract Processing အရရင်းနှီးမြှုပ်နှံငွေ | |
|---|---|---|---|---|---|---|---|
| | | ကျပ် | US$ | ကျပ် | US$ | ကျပ် | US$ |
| 1 | ငွေ | 29.50 | - | 29.50 | - | - | - |
| 2 | စက်ပစ္စည်း | 1.98 | 0.33 | 380.42 | 0.36 | 25.50 | 0.03 |
| 3 | မြေ | 25.20 | - | 25.20 | - | - | - |
| 4 | အဆောက်အဦး | 60.00 | - | 103.45 | - | - | - |
| | စုစုပေါင်း | 116.68 | 0.33 | 538.57 | 0.36 | 25.50 | 0.03 |

ရှင်းလင်းချက်။ ။ Contrect Processing အရ စက်ပစ္စည်းတွင် ရင်းနှီးမြှုပ်နှံငွေ - USD - 0.03 သန်း အပါအဝင် စုစုပေါင်း ကျပ် - 25.24 သန်း မှာ ၂၀၁၂-၂၀၁၃ ခုနှစ်အထိသုံးစွဲပြီးရင်းနှီးမြှုပ်နှံ မှု USD - 0.06 သန်း အပါအဝင် စုစုပေါင်း 538.57 သန်း တွင်ပါဝင်ပြီးဖြစ်ကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

(WIN MYINT)
MANAGING DIRECTOR
HIGH WIN INTERNATIONAL CO., LTD.

Internal Revenue Department
Companies Circle Tax Office

ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
ကုမ္ပဏီများဆိုင်ရာအခွန်ရုံး ( ရန်ကုန်တိုင်း )
အမှတ် ၅၉/၆၁ ၊ ပန်းဆိုးတန်းလမ်း ၊ ရန်ကုန်မြို့

အမှတ်စဉ် 005375

ကိုယ်ပိုင်လျှို့ဝှက်

Companies Circle Tax Office Companies Circle Tax Office Companies Circle Tax Office Companies Circle Tax Office Companies Circle Tax Office Companies Circle Tax Office Companies Circle Tax Office

စာအမှတ်၊ ပတခ/ကုမ္ပဏီ/သက်တမ်းတိုး/၂၀၁၃(၄၉၉၉)
ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁ ရက်

သို့
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

အကြောင်းအရာ။ **<u>အခွန်ကိစ္စ စိစစ်ဆောင်ရွက်ပြီးကြောင်း အကြောင်းကြားစာ ပေးပို့ခြင်း</u>**

၁။ ရန်ကုန် တိုင်း၊ ရွှေပြည်သာ မြို့နယ်၊ (၃၉)ရပ်ကွက် ရပ်ကွက်၊ ဆင်မင်းလမ်း ... လမ်း၊ အမှတ် ၁၀၃၊ ၁၁၁၀ တွင် ဖွင့်လှစ်ထားရှိသော ၇. ၅. ၁၉၉၄ ရက်စွဲပါ ကုမ္ပဏီလုပ်ငန်းမှတ်ပုံတင်အမှတ် ၃၂၁၉၉၄-၉၅ ဖြင့် ဖွဲ့စည်းထားရှိသည့် High Win International ကုမ္ပဏီ၏ ဘဏ္ဍာဆိုင်ရာဝင်ငွေနှစ်များအတွင်း ဆောင်ရွက်ခဲ့သည့် လုပ်ငန်းများအတွက် အခွန်ဆိုင်ရာ စိစစ် ဆောင်ရွက်မှုများကို အောက်ပါအတိုင်း ဆောင်ရွက်ထားရှိပြီးဖြစ်ပါသည်-

(က) ကုမ္ပဏီအပေါ် ၂၀၁၀ - ၂၀၁၁ စည်းကြပ်နှစ် အထိ စည်းကြပ်မှုများ ဆောင်ရွက်ပြီးဖြစ်၍ စည်းကြပ်မှုအရ ကျသင့်အခွန်များအားလုံး ပြေကြေစွာ ထမ်းဆောင်ပြီးဖြစ်ခြင်း။

(ခ) ကုမ္ပဏီ အပေါ် ၂၀ - ၂၀ စည်းကြပ်နှစ် အထိ စည်းကြပ်မှုများ ဆောင်ရွက်ပြီးဖြစ်၍ စည်းကြပ်မှုအရ ကျသင့်အခွန်များ ပေးဆောင်ရန်အတွက် လုံလောက်သောအစီအစဉ် ပြုလုပ်ပြီးဖြစ်ခြင်း။

၂။ သို့ဖြစ်ပါ၍ High Win International ကုမ္ပဏီ၏ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းတိုး ဆောင်ရွက်ပေးရန်အတွက်တင်ပြခြင်းကိစ္စအပေါ် လိုအပ်သလို ဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် အကြောင်းကြားပါသည်။

ဌာနမှူး( ကိုယ်စား )
[ ညွှန်ကြားရေးမှူး ]

အခွန်မှူး
(သိန်းဇော်)
ဦးစီးအရာရှိ
ကုမ္ပဏီများဆိုင်ရာအခွန်ရုံး

ရုံးတံဆိပ်

မိတ္တူကို-
(၁) High Win International ကုမ္ပဏီလီမိတက်။
(၂) ရုံးလက်ခံ။

နောက်ဆုံးရှင်း၊ ၂၀၁၁-၂၀၁၂ စည်းကြပ်နှစ်အတွက်ကြိုတင်ခွန်ဆောင်
ဝင်ငွေခွန် ၅၀၀၀၀၀ိ — ကုန်သွယ်ခွန်........
ငွေပေါင်း ..၅၀၀၀၀၀ိ/- ပေးသွင်းထားပြီးဖြစ်ပါသည်။

• အခွန်ပေးဆောင်မှုအခြေအနေ

| စဉ် | အခွန်စည်းကြပ်နှစ် | အခွန်ပေးဆောင်ရမည့်ငွေ | | ပေးဆောင်ပြီးအခြေအနေ | | မှတ်ချက် |
|---|---|---|---|---|---|---|
| | | ကုန်သွယ်ခွန် | ဝင်ငွေခွန် | ကုန်သွယ်ခွန် | ဝင်ငွေခွန် | |
| 1 | 2002-2003 | Nill | Nill | | | |
| 2 | 2003-2004 | 0 | 1,623,237.00 | | 1,623,237.00 | ကုန်သွယ်ခွန်ကင်းလွတ်ခွင့်ရရှိထားပါသည်။ |
| 3 | 2004-2005 | 0 | 828,600.00 | | 828,600.00 | ကုန်သွယ်ခွန်ကင်းလွတ်ခွင့်ရရှိထားပါသည်။ |
| 4 | 2005-2006 | 0 | 44,430,696.00 | | 15,000,000.00<br>15,000,000.00<br>14,430,696.00 | ကုန်သွယ်ခွန်ကင်းလွတ်ခွင့်ရရှိထားပါသည်။ |
| 5 | 2006-2007 | 0 | 7,032,783.00 | | 500,000.00<br>6,532,783.00 | ကုန်သွယ်ခွန်အား Export ပြုလုပ်စဉ် MICB ဘဏ် မှအပြီးဖြတ်ပါသည်။ |
| 6 | 2007-2008 | Nill | Nill | | | |
| 7 | 2008-2009 | Nill | Nill | | | |
| 8 | 2009-2010 | Nill | Nill | | | |
| 9 | 2010-2011 | 0 | 1,556,494.00 | | 1,556,494.00 | ကုန်သွယ်ခွန်အား Export ပြုလုပ်စဉ် MICB ဘဏ် မှအပြီးဖြတ်ပါသည်။ |
| 10 | 2011-2012 | 0 | 4,648,782.00 | | 4,648,782.00 | ကုန်သွယ်ခွန်အား Export ပြုလုပ်စဉ် MICB ဘဏ် မှအပြီးဖြတ်ပါသည်။ |
| 11 | 2012-2013 | 0 | 785,206.00 | | | ပေးချေရန်ကျန်သေးသည်။ |

(WIN MYINT)
MANAGING DIRECTOR
HIGH WIN INTERNATIONAL CO., LTD

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-၅၂၃/၂၀၀၁ ၂၀၀၁ ခုနှစ်၊ နိုဝင်ဘာ လ ၁၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦး ဝင်း မြင့်

(ခ) အဘအမည် ဦး ဟန်ကွမ်ယူ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၉/မရမ (နိုင်) ၀၄၅၇၄၇

(ဃ) နေရပ်လိပ်စာ အမှတ် (၁၆)၊ ၄၉လမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မြင့်မြတ်သော အောင်မြင်မှုအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက် ( High Win International Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ရေခဲစက်နှင့်အအေးခန်းစက်ရုံတည်ဆောက်၍ ငါး ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်း ရပ်ကွက်အမှတ် – ၃၉ (စက်မှု) မြေကွက်အမှတ် ၁၀၇၊ ၁၁၀

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ( ၁၁၆.၆၇ ) သန်း (ကျပ်တစ်ရာ့ တစ်ဆယ့်ခြောက်သန်း ခြောက်သိန်းခုနစ် သောင်း )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၇၉/၂၀၀၁ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၃ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၃ ရက်
(၂၀၀၁ ခုနှစ်၊ နိုဝင်ဘာလ ၁၈ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.) မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် ၃၉(စက်မှု)၊ မြေကွက်အမှတ် (၁၀၇၊ ၁၁၀)ရှိ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာထံမှ ဟိုင်းဝင်းအင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေ(၂.၇၉၈)ဧက (၁၁၃၂၃.၁၁ စတုရန်းမီတာ) ပေါ်တွင် ရေခဲစက်နှင့် အအေးခန်းစက်ရုံတည်ဆောက်၍ ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၄-၉-၂၀၀၁)နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၃/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး(၁၇-၁၀-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၁၁/၂၀၀၁) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးသဘော တူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ ( ၈-၁၁-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၄/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.)အား ရေခဲစက်နှင့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၂၃/၂၀၀၁ ကို ထုတ်ပေးလိုက်သည်။

၂။ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်ခံစား နိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည် ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ (တစ်)နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်းလိုက်နာဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စံနစ်(Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား(Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.) သည် လုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System)စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

<u>လျှို့ဝှက်</u>

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာ စာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့်အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၈။ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၉။ ဟိုင်းဝင်း အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် အမည်မှ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.) အမည်သို့ တရားဝင်အမည် ပြောင်းလဲရန်အတွက် ကုမ္ပဏီများ ညွှန်ကြားမှု ဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီ၏ အမည်ကို တရားဝင် ပြောင်းလဲပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ-အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၀။ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.)၏ မတည်ငွေရင်းထည့်ဝင်မှုတွင် ဟိုင်းဝင်း အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်၏ အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည်ဖြစ်ရာ ကုမ္ပဏီ၏ အစုရှယ်ယာ ထည့်ဝင်မှုကိစ္စများ ဆောင်ရွက်ပြီးစီးသည့်အချိန်တွင် အဆိုပါမြေကွက်ပိုင်ဆိုင်မှုအား မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.) အမည်သို့ ပြောင်းလဲရေးအတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနသို့ လျှောက်ထားဆောင်ရွက်ရမည်။ ဂရန်အမည်ပြောင်းခွင့်ရရှိပါက ဂရန်မိတ္တူ(၅) စောင်ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၃။ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ဗီဇာ၊ နေထိုင်ခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၄။ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေးအစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားရှိမှုအခြေအနေကို ဤကော်မရှင်သို့မပျက်မကွက်အစီရင်ခံရမည်။ ပတ်ဝန်းကျင် အန္တရာယ်များ ဖြစ်ပေါ်စေပြီး၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ပါက စက်ရုံကိုပိတ်သည်အထိ အရေးယူခြင်းခံရမည်။

၁၅။ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများ ဖြင့် (၆)လတစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန် ပေးပို့အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၈။ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့်သက်ဆိုင်ရာဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်ခြင်းမရှိကြောင်းစစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကိုပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၇၅၂/၂၀၀၁ (၉၀၁၀-က)
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ နိုဝင်ဘာလ ၁၈ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေးဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေးဌာနချုပ်ရုံး၊ (ပြည်တွင်းထောက်လှမ်းရေးဌာန)။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၅။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၆။ ဒါရိုက်တာ၊ မြင့်မြတ်သော အောင်မြင်မှု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (High Win International Co., Ltd.)။